## Termination Agreement

This Termination Agreement is made on the 19th day of August, 2009 in Yangon, the Union of Myanmar, by and between;

**MYANMAR ECONOMIC CORPORATION**, a Corporation incorporated and existing under the laws of the Union of Myanmar (hereinafter called "MEC" which expression shall include its successors, legal representatives and permitted assigns) represented by Brigadier General Thura Myint Thein, Managing Director of "MEC", is one part;

**MYAMMA GOLDEN STAR COMPANY LIMITED**, a company incorporated and existing under the laws of the Union of Myanmar and having its registered office at Building No.7/8 Bahosi Yeiktha, Bogyoke Aung San Street, Lanmadaw Township, Yangon, Union of Myanmar (hereinafter called "MGS" which expression shall, include its successors, legal representatives and permitted assigns) represented by U Thein Tun, Managing Director of MGS of the other part:

**WHEREAS**

- MEC, MGS and Brewinvest (Bermuda) Ltd had entered the Joint Venture Agreement dated 4th June 1997 for the establishment of Dagon Brewery Company Ltd (hereinafter called "the Agreement")
- Dagon Brewery Co., Ltd (hereinafter called "the company") is formed and operated its functions with the permission of Myanmar Investment Commission and office of the Directorate of Company Registration Permission No: 258/97 dated (19.5.1997)
- Brewinvest (Bermuda) Co. Ltd, Foreign Shareholder had transferred its all shares to MEC on the dated of 22nd day of March 2005 inaccordance with the Myanmar Companies Act, and also MGS had transferred its all shares to MEC on the date of 1st April 2009 inaccordance with the Myanmar Companies Act;

AND WHEREAS, 100% share of the Dagon Brewery Co., Ltd has been owned by MEC and in the view of the parties agree to terminate the Agreement;

NOW THEREFORE the parties agree as follows: -

1. Save as specifically stated in the Letter of Undertaking dated 19th, August, 2009 made by U Thein Tun (MGS), the terms and Conditions of the Agreement and all supplementary agreements shall no longer apply to either party and all Agreements shall be terminated in its entirely by this Termination Agreement.

2. This Termination Agreement shall come into effect on the date of signing by both parties.

IN WITNESS HERE OF the parties here to have caused this Termination Agreement to be executed by their respective duly authorized and empowered representatives, on the day and date first above mentioned.

**FOR AND ON BEHALF OF**
Myanmar Economic Corporation
Brigadier General Thura Myint Thein(Retd.)
Managing Director
Myanmar Economic Corporation

**FOR AND ON BEHALF OF**
Myanma Golden Star Co., Ltd.
U Thein Tun
Chairman
Myanma Golden Star Co., Ltd.

19.8.2009

**In the presence of :**

(1) Colonel Khin Maung Soe(Retd.)
Deputy Managing Director
Myanmar Economic Corporation

(2) Daw Mya Sandar Aung
Finance Manager
Myanma Golden Star Co., Ltd.

M-1524
29/10

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ကာကွယ်ရေးဝန်ကြီးဌာန
မြန်မာစီးပွားရေးကော်ပိုရေးရှင်း

စာအမှတ်၊ ၄၀ /၄၀ / ၃၈ /ဒဂုံ / မစက
ရက်စွဲ၊၂၀၀၉ ခုနှစ် အောက်တိုဘာလ ၂၆ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
ရှေ့နေချုပ်ရုံး

အကြောင်းအရာ။ **ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တောင်းခံခြင်း**

၁။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏လုပ်ငန်းခွဲ(၁)ခုဖြစ်သောဒဂုံဗျူရီကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ကုမ္ပဏီများမှတ်ပုံတင်ရုံး၏ နောက်ဆက် တွဲ (က)ပါ (၁၉. ၅. ၉၇) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် ၂၅၈/၉၇ဖြင့် ဘီယာထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းများ ဆောင်ရွက်ရန် ခွင့်ပြုမိန့်ရရှိခဲ့ပြီး ကုမ္ပဏီများ မှတ်ပုံတင်ရုံး၏ (၁၅. ၁၀. ၉၇)ရက်စွဲပါစာအမှတ် ၁၃ဂျေဗီ/၁၉၉၇-၉၈ဖြင့် ကုမ္ပဏီတည်ထောင်၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။အဆိုပါလုပ်ငန်းအတွက် အစုရှယ်ယာရှင် (၃)ဦးမှ အောက်ပါအတိုင်းရင်းနှီးမြှုပ်နှံမှုများ ထည့်ဝင်၍ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်ခဲ့ကြပါသည် -

(အမေရိကန်ဒေါ်လာသန်းပေါင်း)

| ကုမ္ပဏီ | ရှယ်ယာအချိုး | ရှယ်ယာအရေအတွက် | ခွင့်ပြုမတည်ငွေရင်း |
|---|---|---|---|
| MEC | ၅၀ % | ၄,၇၈၈ | ၇. ၉၈ |
| Brewinvest | ၃၅ % | ၃,၃၅၄ | ၅. ၅၉ |
| MGS | ၁၅ % | ၁,၄၃၄ | ၂. ၃၉ |
| *စုစုပေါင်း* | *၁၀၀ %* | *၉,၅၇၆* | *၁၅. ၉၆* |

၂။ (၂၂. ၃. ၀၅)ရက်နေ့တွင် ဒဂုံဗျူရီကုမ္ပဏီလီမိတက်တွင် ထည့်ဝင်ထားသော Brewinvest ၏အစုရှယ်ယာ ၃၅%အား မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ နောက်ဆက်တွဲ (ခ)ပါအတိုင်း အပြီးသတ်ငွေပေးချေဝယ်ယူခဲ့ပြီးဖြစ်သဖြင့် ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီလီမိတက်အဖြစ် ပြောင်းလဲနိုင်ရေးအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးမည့်ခွင့်ပြုမိန့်ကို ရယူနိုင်ရန်နှင့် ရှယ်ယာအချိုး၊ မတည်ရင်းနှီးငွေများအား ပြင်ဆင် ပြောင်းလဲနိုင်ရေးအတွက် နောက်ဆက်တွဲ (ဂ)ပါ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်ရယူ၍ နောက်ဆက်တွဲ(ဃ)ပါ စာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပါသည်။

၃။ (၁၇. ၉. ၀၈)ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော ကုန်သွယ်မှုမူဝါဒကောင်စီအစည်းအဝေး အမှတ်စဉ် (၃၁/၂၀၀၈)၏ ခွင့်ပြုချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးထား သည့် နောက်ဆက်တွဲ (င)ပါ ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံခွင့်ပြုခဲ့ပါသည်။

၄။ ထို့ပြင် (၁၃. ၃. ၀၉)ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉/၂၀၀၉) ကြိမ်မြောက်အစည်းအဝေးက ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား ဘီယာထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြောင်းလဲဆောင်ရွက်နိုင်ရန်အတွက် (၂၅. ၃. ၀၉)ရက်စွဲပါ ခွင့်ပြုမိန့် အမှတ်စဉ် (၇၀၀/၂၀၀၉) နောက်ဆက်တွဲ (စ)ကို ထုတ်ပေးခဲ့ပါသည်။

၅။ ဒဂုံဗျူရီကုမ္ပဏီလီမိတက်၏ အစုရှယ်ယာအချိုးပြောင်းလဲခြင်းနှင့်ဒါရိုက်တာအဖွဲ့ဝင်များ ပြောင်းလဲခြင်းတို့အတွက် လိုအပ်သည့်ကိစ္စရပ်များကို ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ကုမ္ပဏီများမှတ်ပုံတင်ရုံးသို့ တင်ပြဆောင်ရွက်နေစဉ်အတွင်း မြန်မာ့ဂိုးလ်ဒင်းစတားကုမ္ပဏီလီမိတက်က ဒဂုံဗျူရီကုမ္ပဏီလီမိတက်တွင် ၎င်းထည့်ဝင်ပိုင်ဆိုင်သည့် အစုရှယ်ယာ ၁၅%ကို မြန်မာစီးပွားရေးကော်ပိုရေးရှင်းသို့ လွှဲပြောင်းရောင်းချလိုပါကြောင်း တင်ပြလာသဖြင့် မြန်မာစီးပွားရေးကော်ပိုရေးရှင်းက နောက်ဆက်တွဲ (ဆ)ပါအတိုင်း မြန်မာ့ဂိုးလ်ဒင်းစတားကုမ္ပဏီလီမိတက်၏ အစုရှယ်ယာများအားလုံးကို လွှဲပြောင်းဝယ်ယူခဲ့ပြီး Termination Agreement ကို နောက်ဆက်တွဲ(ဇ)ပါ အတိုင်း လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်သဖြင့် ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ ရာနှုန်းပြည့် ပိုင်ဆိုင်သောကုမ္ပဏီအဖြစ် မှတ်ပုံတင်ဆောင်ရွက်ရန်ဖြစ်ပေါ်လာပါသည်။

၆။ ယင်းသို့ဆောင်ရွက်ရန်အတွက် အောက်ပါအချက်များအား ပြင်ဆင်ပြောင်းလဲဆောင်ရွက်သွားမည်ဖြစ်ပါသည် -

| | | ယခင် | ယခု |
|---|---|---|---|
| (က) ဒါရိုက်တာအဖွဲ့ဝင်များ | ဥက္ကဋ္ဌ | ဗိုလ်ချုပ်ကျော်ဝင်း(ငြိမ်း) | ဗိုလ်မှူးချုပ်သူရမြင့်သိန်း(ငြိမ်း) |
| | အဖွဲ့ဝင် | ဗိုလ်ချုပ်ခင်မောင်ထွန်း | ဗိုလ်မှူးကြီးထွန်းလှအောင် |
| | အဖွဲ့ဝင် | ဦးသိန်းထွန်း (MGS) | - |
| | အဖွဲ့ဝင် | ဗိုလ်မှူးလှမင်းတူ(ငြိမ်း) | ဗိုလ်မှူးလှမင်းတူ(ငြိမ်း) |
| ( ခ) ရင်းနှီးမြှုပ်နှံလိုသူ | | ဗိုလ်ချုပ်ကျော်ဝင်း(ငြိမ်း) | ဗိုလ်မှူးချုပ်သူရမြင့်သိန်း(ငြိမ်း) |
| ( ဂ) ရင်းနှီးမြှုပ်နှံငွေ | | ၆၂၆၀. ၇၈ ကျပ်သန်း | ၈၇၈၆. ၂၇ ကျပ်သန်း |

၇။ သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)နှင့်သင်းဖွဲ့မှတ်တမ်း(မူကြမ်း)များကိုလည်း ယခင်မြန်မာနိုင်ငံသားများပိုင်ဆိုင်သော ဖက်စပ်ကုမ္ပဏီ(အစား) မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှရာနှုန်းပြည့်ပိုင်ဆိုင်သော ကုမ္ပဏီအဖြစ်နှင့်ခွင့်ပြုမတည်ငွေရင်း (Authorized Shares Capital)အား ကျပ်သန်းပေါင်း ၁၀,၀၀၀ သို့တိုးမြှင့်မှတ်ပုံတင်ခွင့်ပြုရန် ပြင်ဆင်တင်ပြထားပါသည်။

၈။ သို့ဖြစ်ပါ၍ ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ ရာနှုန်းပြည့်ပိုင်ဆိုင်သော ကုမ္ပဏီအဖြစ်ပြောင်းလဲနိုင်ရေးအတွက် နောက်ဆက်တွဲ(ဈ)ပါ ပြင်ဆင်ရေးသားထားသည့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း) နှင့်သင်းဖွဲ့မှတ်တမ်း(မူကြမ်း)များအား လိုအပ်သလို ပြင်ဆင်ဖြည့်စွက် သဘောထားမှတ်ချက်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

ဗိုလ်မှူးချုပ် သူရမြင့်သိန်း(ငြိမ်း)
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာစီးပွားရေးကော်ပိုရေးရှင်း

မိတ္တူကို

- စစ်ထောက်ချုပ်ရုံး
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ✓
- ဒဂုံဗျူရီကုမ္ပဏီလီမိတက်

ကန့်သတ်

နောက်ဆက်တွဲ (က)

ပို့ရုံး
ပြည်ထောင်စုမြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု
စာအမှတ် ၃၂၇
နေ့စွဲ ၁၉.၅.၉၄

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၂၁၈/၉၇ ၁၉၉၇ခုနှစ်၊ မေ လ ၁၉ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည် –

(က) ကမကထပြုသူ၏အမည် ဗိုလ်မှူးကြီး ဇော်လင်း

(ခ) မည်သည့်နိုင်ငံသား မြန်မာ

(ဂ) နေရပ်လိပ်စာ တိုက်(၈)၊အခန်း(၂)၊ ဖဒို့ မိုင် ရန်ကုန်မြို့

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်း အမှတ် ၄၄–၂၆၊ ရွှေတိဂုံဘုရားလမ်း၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းရာအရပ် ရန်ကုန်မြို့

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ဘီယာထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်ခွင့်ပြုသည့်အရပ်ဒေသ(များ) မြေကွက်အမှတ် ၅၅၅(ခ)၊ ရွှေပြည်သာမြို့နယ်

(ဇ) နိုင်ငံခြားမတည်ငွေရင်း အမေရိကန်ဒေါ်လာ ~~[illegible]~~ ၁၅.၃၃သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကုမ္ပဏီဖွဲ့စည်းတည်ထောင်ပြီးတစ်နှစ်အတွင်း

၁၂–၆–၉၈ နေ့တွင်ပြုလုပ်သည့်ကော်မရှင်အစည်းအဝေးအမှတ်စဉ် (၁၀/၉၈) ဆုံးဖြတ်ချက်အရပြင်ဆင်သည်။

(ည) စုစုပေါင်း မတည်ငွေရင်း ပမာဏ(ကျပ်) ~~[illegible]~~ ၁၅၄.၂သန်း ~~([illegible])~~ (ကျပ်တစ်ရာငါးဆယ်လေးသန်းနှစ်သိန်းတိတိ)

(ဋ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့်သက်တမ်း ၃၀ နှစ်

(ဌ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းအမည် DAGON BREWERY CO., LTD.

(သင်းမောင်)
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု
ဦးစီးဌာန။

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်



ကန့်သတ်

Union of Myanmar Form (2). No. 527 Dated 19.5.97 Myanmar Investment Commission

The Myanmar Investment Commission

# PERMIT

Permit No. 258/97 Date 19th MAY 1997

The Myanmar Investment Commission issues this Permit under Section 10 of the Union of Myanmar Foreign Investment Law -

(a) Name of Promoter COL. ZAW LIN

(b) Citizenship MYANMAR

(c) Address BUILDING (E), ROOM NO.2, 6½ MILES YANGON

(d) Name and address of principal organization MYANMAR ECONOMIC CORPORATION, NO.44-26, SHWEDAGON PAGODA ROAD, YANGON.

(e) Place of incorporation YANGON

(f) Type of business in which investment is to be made PRODUCTION, DISTRIBUTION AND SALES OF BEER

(g) Place (s) at which investment is permitted PLOT NO. 555 (KHA) SHWEPYITHA TOWNSHIP

(h) Amount of foreign capital US $ ~~43.53 MILLION~~ 15.33 MILLION

(i) Period for bringing in foreign capital WITHIN ONE YEAR FROM THE DATE OF INCORPORATION OF THE COMPANY

(j) Total amount of capital (Kyat) ~~443.4 MILLION~~ 154.2 MILLION (KYAT ONE HUNDRED AND FIFTY FOUR MILLION TWO HUNDRED THOUSAND ONLY) ~~(KYAT ONE HUNDRED AND FORTY THREE MILLION AND FOUR HUNDRED THOUSAND ONLY)~~

(k) Permitted duration of investment 30 YEARS

(l) Name of the economic organization to be formed in Myanmar DAGON BREWERY CO., LTD.

Amended as per resolution made by IC at its meeting 10/98 dated 12.6.98

(Signed)

(Thinn Maung)
Director
Directorate of Investment
and Company Administration.

(Signed)

*Chairman*
The Myanmar Investment Commission

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ..........၁၃ ဂျေဗွီ........ /၁၉၉၇ -၁၉၉၈

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ......ဒဂုံ ဗျူရီကုမ္ပဏီ လီမိတက်......

........................................ အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၁၉၉၇ ခုနှစ်၊ အောက်တိုဘာ.... လ ၁၅.. ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( သိင်္ဂီတင် )

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

| စက်မှု/ထုတ်လုပ်မှု/ဆောက်လုပ်ရေး<br>INDUSTRIAL/PRODUCTION/CONSTRUCTION |
|---|

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND
ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

**No. ......13JV...... of 19 97 - 19 98**

*I hereby certify that* DAGON BREWERY COMPANY LIMITED ........................................................ *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* ......FIFTEENTH...... *day of* ......OCTOBER...... *one thousand nine hundred and* ......NINETY SEVEN......

( THEINGI TIN )

**Registrar of Joint Stock Companies**
**Companies Registration Office**

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၁၀၀၀၀၀ကျပ် ငွေတစ်သိန်းကျပ် K100000

# Transfer of Shares

I, Brewinvest (Bermuda) Limited of Clarendon House, 2 Church Street, Hamilton HM-11, Bermuda in consideration of the sum of US$4,032,507.10 paid to me by Myanmar Economic Corporation of No. 74/76 Shwedagon Pagoda Road, Dagon Township, Yangon, Myanmar do hereby transfer to the said transferee the 3354 shares number 4788 to 8142 standing in my name in the Books of the abovenamed Company to hold unto the said transferee, his Executors, Administrators, and Assigns, subject to the several conditions on which I held the same at the time execution thereof and I the said transferee do hereby agree to take the said shares subject to the same conditions.

As witness our hands the 22nd day March 2005

| | |
|---|---|
| ..................... | ..................... |
| **Witness** | Mr. Derek Ian Cook |
| Mr. Jesper B. Madsen | **Transferor** |
| | (for) Brewinvest (Bermuda) Ltd. |
| **Designation** | **Designation** |
| Senior Vice President | Director |
| **Address** | **Address** |
| Carlsberg Brewries A/S | Brewinvest (Bermuda) Limited. |
| 100 Ny Carlsberg Vej | Clarendon House, 2 Church Street, |
| DK – 1760 Copenhagen V | Hamilton HM-11, Bermuda. |
| ..................... | ..................... |
| **Witness** | Major General Kyaw Win |
| Col. Shwe Myo | **Transferee** |
| | (for) Myanmar Economic Corporation |
| **Designation** | **Designation** |
| General Manager | Managing Director |
| **Address** | **Address** |
| Myanmar Economic Corporation | Myanmar Economic Corporation |
| 74/76 Shwedagon Pagoda Road, | 74/76 Shwedagon Pagoda Road, |
| Dagon Township, | Dagon Township, |
| Yangon, Myanmar | Yangon, Myanmar |

နောက်ဆက်တွဲ(ဂ)

လျှို့ဝှက်

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**

**ရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၁ - ၄ /နပတ ( ၃၃ )

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဇန်နဝါရီလ ၂၀ ရက်

အကြောင်းအရာ။ **ဒဂုံဗျူရီကုမ္ပဏီလီမိတက်၏ AMENDMENT TO THE JOINT VENTURE AGREEMENT (မူကြမ်း)၊ MOA နှင့် AOA (မူကြမ်း) တို့ အပေါ် ဥပဒေ အကြံပြုခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ၁။ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၏ ၁-၁-၂၀၀၉ ရက်စွဲပါ စာအမှတ်၊ ၄၀/၄၀/၃၈/ဒဂုံ/မစက

၂။ ရှေ့နေချုပ်ရုံး၏ ၄-၇-၂၀၀၅ ရက်စွဲပါစာအမှတ်၊ ၂(၅)၁၆-၄၀(၁၈၄)

၃။ ရှေ့နေချုပ်ရုံး၏ ၅-၁၂-၂၀၀၈ ရက်စွဲပါစာအမှတ်၊ ၂(၅)၁၆-၃၆/နပတ (၃၇၈)

၁။ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း(MEC)၊ မြန်မာဂိုးဒင်းစတားကုမ္ပဏီလီမိတက်(MGS)နှင့်နိုင်ငံခြားကုမ္ပဏီဖြစ်သည့် Brewinvest (Bermuda) Limited (BI) တို့ ဖက်စပ်ဖွဲ့စည်းတည်ထောင်ထားသောဒဂုံဗျူရီဖက်စပ်ကုမ္ပဏီလီမိတက်မှ နိုင်ငံခြားသားပိုင်အစုရှယ်ယာများကို မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းကလွှဲပြောင်းဝယ်ယူခဲ့သဖြင့် ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီလီမိတက်အဖြစ်ပြောင်းလဲနိုင်ရေးအတွက်ရှေ့နေချုပ်ရုံး၏ရည်ညွှန်းချက်(၂)(၃)ပါအကြံပြုချက်များအရ ပြုစုထားသောဖက်စပ်စာချုပ်ပြင်ဆင်ချက်(မူကြမ်း)၊သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်း(မူကြမ်း) တို့ ကိုစိစစ်၍သဘောထားမှတ်ချက်ပြုနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ပူးတွဲပေးပို့လာသော AMENDMENT TO THE JOINT VENTURE AGREEMENT (မူကြမ်း)ကိုလေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုပါသည် -

(က) မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း(MEC) နိုင်ငံခြားကုမ္ပဏီဖြစ်သော Brewinvest (Bermuda) Limited နှင့် မြန်မာဂိုးဒင်းစတားကုမ္ပဏီလီမိတက်(MGS) တို့သည်

လျှို့ဝှက်

ဖက်စပ်စာချုပ်ချုပ်ဆို၍ ဒဂုံဗျူရီဖက်စပ်ကုမ္ပဏီလီမိတက်အဖြစ်တည်ထောင်ခဲ့ရာမှ Brewinvest (BI) ပိုင်ဆိုင်သည့်အစုရှယ်ယာ ၃၅%ကို (MEC) က လွှဲပြောင်းဝယ်ယူခဲ့၍ ဒဂုံဗျူရီဖက်စပ်ကုမ္ပဏီလီမိတက်အား MEC က ၈၅% နှင့် MGS က ၁၅% နှုန်းဖြင့် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီအဖြစ်ပြောင်းလဲရန်အတွက် မူလဖက်စပ်စာချုပ်ကိုပြင်ဆင်မည့် အစီအစဉ်ဖြစ်ကြောင်းတွေ့ရှိရပါသည်၊

(ခ) စာချုပ်(မူကြမ်း)အပိုဒ် I ကို Whereas အပိုဒ်တွင်ဖော်ပြသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)မှာ BI ၏ အစုရှယ်ယာကို MEC မှ ဝယ်ယူသည့်အတွက် ချုပ်ဆိုမည့် ပြင်ဆင်ချက်စာချုပ်ဖြစ်သော်လည်း စာချုပ်(မူကြမ်း)တွင် အဓိကလိုအပ်သည့် ဖက်စပ်စာချုပ်ပါအစုရှယ်ယာအား ပြင်ဆင်မည့်စာပိုဒ်မပါရှိသဖြင့် ယင်းစာပိုဒ်ကိုထည့်သွင်းရန် လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)တွင်မူလဖက်စပ်စာချုပ်အပိုဒ် 3 CONDITION PRECEDENTS အပိုဒ်ခွဲ 3.1(c) တွင် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီအဖြစ် ပြောင်းလဲရမည်ဖြစ်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးရန်ဖြစ်ကြောင်း ပြင်ဆင်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် 3 Duration ၏ အပိုဒ်ခွဲ 13.1 တွင် သတ်မှတ်ထားသော ကာလ ၁၉ နှစ်မှာ ပါမစ်တွင်ပါရှိသောကာလမှ ကျန်ရှိသောကာလနှင့်ကိုက်ညီရန် လိုအပ်ပါသည်၊

(စ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်ထားပါသည်။

၃။ စာချုပ်(မူကြမ်း)များဖြစ်သော သင်းဖွဲ့မှတ်တမ်း(MOA) နှင့် သင်းဖွဲ့စည်းမျဉ်း(AOA)(မူကြမ်း) များကိုလေ့လာစိစစ်ပြီး အောက်ပါအတိုင်းအကြံပြုပါသည်-

(က) MOA (မူကြမ်း)နှင့် (AOA)(မူကြမ်း)များကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၉ နှင့် ၁၉ တို့အရ အင်္ဂလိပ်၊ မြန်မာနှစ်ဘာသာဖြင့် ရေးသားပြုစုထားသော်လည်း AOA ၏ အပိုဒ် ၈ မြန်မာဘာသာတွင် အပိုဒ်တစ်ပိုဒ်သာပါရှိပြီး အင်္ဂလိပ်ဘာသာတွင် အပိုဒ်ခွဲ(a) နှင့် (b)နှစ်ပိုဒ်ပါရှိသဖြင့် AOA နှင့် MOA တို့၏ အင်္ဂလိပ်နှင့်မြန်မာကိုက်ညီရေး အတွက်စိစစ်ရန်လိုအပ်ပါသည်၊

(ခ) MOA (မူကြမ်း)နှင့် (AOA)(မူကြမ်း)တို့တွင် ဖော်ပြထားသော Share များ၊ အချက်အလက်များနှင့်ပတ်သက်သောဖော်ပြချက်များသည် ဖက်စပ်စာချုပ်ပါ ဖော်ပြချက်များနှင့်ညီညွတ်ရန်လိုအပ်ပါသည်၊

(ဂ) MOA နှင့် AOA ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ ဆောင်ရွက်ထားခြင်းဖြစ်ရန်လိုအပ်ပြီး ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနနှင့်ညှိနှိုင်းဆောင်ရွက်ရန်ဖြစ်ပါသည်၊

(ဃ) MOA (မူကြမ်း)နှင့် (AOA)(မူကြမ်း)တို့၏ လိုအပ်သောနေရာအနည်းငယ်တွင် မင်နီဖြင့်ပြင်ဆင်ထားပါသည်။

၄။ စာချုပ်(မူကြမ်း)များကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၅။ AMENDMENT TO THE JOINT VENTURE AGREEMENT (မူကြမ်း)၊ MOA (မူကြမ်း)၊ (AOA)(မူကြမ်း)တို့ကို လက်မှတ်ရေးထိုးပြီးပါကမှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(signature) ၂၈.၃.၀၉

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး)

**မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း**
**ကာကွယ်ရေးဝန်ကြီးဌာန**

နောက်ဆက်တွဲ(ဂ-၁)

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
## ရှေ့နေချုပ်ရုံး
## နေပြည်တော်

စာအမှတ်၊ ၂(၅) ၁၆ - ၃၆ /နပတ ( ၃၇၈ )

ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်

အကြောင်းအရာ။ **မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၏ လုပ်ငန်းခွဲတစ်ခုဖြစ်သော ဒဂုံဗျူရီကုမ္ပဏီ လီမိတက်၏ဖက်စပ်စာချုပ်(မူကြမ်း)၊ သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)နှင့် သင်းဖွဲ့မှတ်တမ်း(မူကြမ်း) တို့ အပေါ်သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ ၁။ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၏ ၇-၁၀-၂၀၀၈ ရက်စွဲပါ စာအမှတ်၊ ၄၀/၄၀/၃၈/ဒဂုံ/မစက

၂။ ရှေ့နေချုပ်ရုံး၏ ၄-၇-၂၀၀၅ ရက်စွဲပါစာအမှတ်၊ ၂(၅)၁၆-၄၀(၁၈၄)

၁။ မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း(MEC)၊ မြန်မာဂိုးဒင်းစတားကုမ္ပဏီလီမိတက်(MGS)နှင့်နိုင်ငံခြားကုမ္ပဏီဖြစ်သည့် Brewinvest (Bermuda) Limited (BI) တို့ ဖက်စပ်ဖွဲ့စည်းတည်ထောင်ထားသောဒဂုံဗျူရီဖက်စပ်ကုမ္ပဏီလီမိတက်မှ နိုင်ငံခြားသားပိုင်အစုရှယ်ယာများကို မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းကလွှဲပြောင်းဝယ်ယူခဲ့သဖြင့် ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီလီမိတက်အဖြစ်ပြောင်းလဲနိုင်ရေးအတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရထုတ်ပေးမည့်ခွင့်ပြုမိန့်ကိုရယူနိုင်ရန် ယခင်ချုပ်ဆိုထားသောဖက်စပ်စာချုပ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများအား ပြင်ဆင်ရေးသား၍ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အတူ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြရန်အတွက် ဖက်စပ်စာချုပ်(မူကြမ်း)၊ သင်းဖွဲ့စည်းမျဉ်းနှင့် သင်းဖွဲ့မှတ်တမ်း(မူကြမ်း)များကိုလိုအပ်သလိုပြင် ဆင်ဖြည့်စွက်သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော စာရွက်စာတမ်းများအရ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

(က) ၄-၆-၉၇ ရက်နေ့က ဖက်စပ်လုပ်ငန်းသဘောတူစာချုပ်ချုပ်ဆိုကာ အစုရှင်များအဖြစ် မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း(MEC)မှ ၅၀% နိုင်ငံခြားကုမ္ပဏီဖြစ်သော Brewinvest

(Bermuda) Limited (BI) မှ ၃၅% နှင့် မြန်မာဂိုးဒင်းစတားကုမ္ပဏီလီမိတက်(MGS) မှ ၁၅% တို့နှင့် ဒဂုံဗျူရီဖက်စပ်ကုမ္ပဏီလီမိတက်တို့ ပူးပေါင်းတည်ထောင်ခဲ့ပါသည်၊

(ခ) (BI) ပိုင်ဆိုင်သည့် အစုရှယ်ယာအားလုံးဖြစ်သော ဒဂုံဗျူရီလီမိတက် ဖက်စပ်ကုမ္ပဏီ ၏ ရှယ်ယာ ၃၅%ကို MEC ကအစုရှယ်ယာလွှဲပြောင်းခြင်းသဘောတူစာချုပ်ဖြင့်လွှဲပြောင်း ဝယ်ယူ ခဲ့ပါသည်၊

(ဂ) ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာပိုင်ကုမ္ပဏီအဖြစ် ပြင်ဆင်ပြောင်းလဲရေးအတွက် ရှေ့နေချုပ် ရုံးသို့ဥပဒေအကြံဉာဏ်တောင်းခံခဲ့ရာ ရှေ့နေချုပ်ရုံးမှ၄-၇-၂၀၀၅ရက်စွဲပါ စာအမှတ်၊ ၂(၅)၁၆-၄၀(၁၈၄)ဖြင့် ပြန်ကြားခဲ့ရာ ယင်းအကြံပြုချက် စာပိုဒ် ၄တွင် " သို့ဖြစ်ပါ၍ ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား MEC က ၈၅% နှင့် MGS က ၁၅% ဖြင့် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီအဖြစ် ပြောင်းလဲဆောင်ရွက်နိုင်ရန်အလို့ငှာ ယခင်ချုပ်ဆို ထားသော ဖက်စပ်စာချုပ် နှင့်သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများအစရှိသည်တို့ကို ပြင်ဆင်ရန်လိုအပ်မည်ဖြစ်ပါသည်" ဟု ဖော်ပြအကြံပြုပြန်ကြားခဲ့ပါသည်၊

(ဃ) ယခုအခါ MEC မှ အသစ်ပြုစုထားသော ဖက်စပ်စာချုပ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့ စည်းမျဉ်း (မူကြမ်း)များကို သဘောထားမှတ်ချက်ပေးရန် ဤရုံးသို့ပေးပို့လာခြင်းဖြစ် ပါသည်၊

(င) ပေးပို့လာသည့် အသစ်ရေးဆွဲထားသော ဖက်စပ်စာချုပ်(မူကြမ်း)အပိုဒ် ၁၆-၁ တွင် " ဒဂုံဗျူရီကုမ္ပဏီလီမိတက် စတင်တည်ထောင်ရန် မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၊ Brewinvest (Bermuda) Limited နှင့် မြန်မာဂိုးဒင်းစတား ကုမ္ပဏီတို့ ၄-၆-၁၉၉၇ နေ့ကချုပ်ဆိုခဲ့သော ဖက်စပ်လုပ်ငန်းသဘောတူစာချုပ်ကို ဤဖက်စပ်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး စာချုပ်စတင်အတည်ဖြစ်သည့် နေ့မှစ၍ အစားထိုး ပယ်ဖျက်လိုက်သည်" ဟု ဖော်ပြထားသည်ကိုတွေ့ရပါသည်၊

၃။ သို့ဖြစ်ပါ၍ ဥပဒေကြောင်းအရ အောက်ပါအတိုင်းအကြံပြုအပ်ပါသည်-

**နည်းလမ်း(၁)**

(က) ရည်ညွှန်းချက်စာဖြင့် ပေးပို့လာသောဖက်စပ်စာချုပ်(မူကြမ်း)အရ အသစ်ချုပ်ဆိုခြင်း၊ ဒဂုံဗျူရီကုမ္ပဏီလီမိတက်မှ နိုင်ငံခြားသား (BI)ထံမှ ပိုင်ဆိုင်သောအစုရှယ်ယာ ၃၅% ကို MEC က ဝယ်ယူခဲ့ခြင်းကြောင့် သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းများကို အသစ်ပြုစုရေးဆွဲခြင်းဖြင့်ဒဂုံဗျူရီကုမ္ပဏီလီမိတက်ကို နိုင်ငံခြားသားပါဝင်သော ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီ လီမိတက်သို့ပြောင်းလဲရန်မှာ ၄-၆-၉၇ နေ့တွင်ချုပ်ဆိုခဲ့သော ဖက်စပ်စာချုပ်ကို အခြေခံ၍ ဖွဲ့စည်းတည်ထောင်ခဲ့သည့် နိုင်ငံခြားသားပါဝင်သော ဒဂုံဗျူရီကုမ္ပဏီလီမိတက်ကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ စာရင်းရှင်းလင်းဖျက်သိမ်းကာအသစ်ချုပ်ဆိုမည့် ဖက်စပ်စာချုပ်၊ အသစ်ရေးဆွဲထားသော သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းများအရ ကုမ္ပဏီအသစ်ထပ်မံဖွဲ့စည်းတည်ထောင်ရမည်ဖြစ်ကြောင်း ဥပဒေကြောင်းအရ သုံးသပ်ရရှိပါသည်၊

(ခ) နိုင်ငံခြားသားပါဝင်သော ဖက်စပ်ကုမ္ပဏီ၏နိုင်ငံခြားသားပိုင် အစုရှယ်ယာအားလုံးကို MEC က ဝယ်ယူခြင်းဖြင့် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီအဖြစ်သို့ပြောင်းလဲရာတွင် မူလဒဂုံဗျူရီကုမ္ပဏီလီမိတက်ကို ဖျက်သိမ်းခြင်းမပြုဘဲ ယင်းကုမ္ပဏီအတွင်း၌ ရှယ်ယာအပြောင်းအလဲပြုလုပ်ခြင်း၊ နိုင်ငံခြားသားပိုင်ကုမ္ပဏီမှ မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီအဖြစ်သို့ပြောင်းလဲခြင်းပြုလုပ်ရာတွင် ပဋိညာဉ်အက်ဥပဒေကိုအသုံးချ၍ ဖက်စပ်စာချုပ်အသစ်ရေးဆွဲအစားထိုးခြင်းဖြင့်လည်းကောင်း၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းကိုအသစ်ရေးဆွဲခြင်းဖြင့်လည်းကောင်းပြုလုပ်နိုင်မည်မဟုတ်ပါ။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရသာ ပြောင်းလဲဆောင်ရွက်ရမည်ဖြစ်ပါသည်။

**နည်းလမ်း(၂)**

(ဂ) ဤရုံး၏ ရည်ညွှန်းချက်(၂)ပါစာဖြင့် အကြံပြုချက်အပိုဒ် ၄ တွင်ဖော်ပြထားသော "ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား MEC က ၈၅% နှင့် MGS က ၁၅% ဖြင့် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီအဖြစ်ပြောင်းလဲဆောင်ရွက်နိုင်ရန်အလို့ငှာယခင်ချုပ်ဆိုထားသောဖက်စပ်စာချုပ်နှင့်သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများအစရှိသည်တို့ကို ပြင်ဆင်ရန်လိုအပ်မည်ဖြစ်

ပါသည်” ဟု အကြံပြုခဲ့ခြင်းမှာ -

(၁) မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းသည် နိုင်ငံခြားကုမ္ပဏီ(BI)ထံမှ Share Purchase Agreement , Share Transfer Agreement နှင့် Share Transfer Form များဖြင့် ဖက်စပ်ကုမ္ပဏီတစ်ခုတည်းအတွင်း အစုဝင်အချင်းချင်း အစုရှယ်ယာများလွှဲပြောင်းဝယ်ယူခဲ့ပြီးဖြစ်၍ လက်ရှိကုမ္ပဏီလီမိတက်ကို စာရင်းရှင်းလင်းဖျက်သိမ်းခြင်းပြုရန်မလိုဘဲဆက်လက်ရပ်တည်သွားရန် နည်းလမ်းကို ရွေးချယ်၍ဥပဒေကြောင်းအရ အကြံပြု ခဲ့ခြင်းဖြစ်ကြောင်း ဦးစွာဖော်ပြလိုပါသည်။

(၂) အစုရှယ်ယာများလွှဲပြောင်းပြီးဖြစ်၍ ယင်းအစုရှယ်ယာလွှဲပြောင်းခြင်းကိစ္စရပ်ကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၃၄ ပါ ပြဋ္ဌာန်းချက်နှင့်အညီ မှတ်ပုံတင်ရမည်ဖြစ်ပြီး ယင်းသို့လွှဲပြောင်းခြင်းကြောင့် မူလဖက်စပ်စာချုပ်တွင် ပါရှိသည့်စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိသောအချက်များကို မူလဖက်စပ်စာချုပ်တွင်ပြင်ဆင်ရန် လိုအပ်လာမည်ဖြစ် ပါသည်။ လိုအပ်လာသောပြင်ဆင်ရမည့် စည်းကမ်းချက်များကို Share Purchase Agreement , Share Transfer Agreement နှင့် Share Transfer Form များကိုအခြေခံ၍ ဖက်စပ်စာချုပ်၌ ကျန်ရှိသည့် စာချုပ်ဝင် MGS နှင့် ပြင်ဆင်သည့် စာချုပ်ချုပ်ဆိုရန် လိုအပ်မည်ဟု ဖော်ပြခဲ့ခြင်းဖြစ်ပါသည်၊

(၃) ဖက်စပ်ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းကို ပြင်ဆင်ရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၂ အရ လည်းကောင်း၊ ဖက်စပ်ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်းကို ပြင်ဆင်ရာတွင် မြန်မာ နိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၂၀ အရလည်းကောင်း အထူးဆုံးဖြတ်ချက် (Special Resolution) ချမှတ်၍ လိုအပ်သလိုပြင်ဆင် ပြောင်းလဲနိုင်ကြောင်းဖော်ပြအပ်ပါသည်၊

(၄) ဖော်ပြပါ နည်းလမ်း(၂)နှင့်အညီ ဆောင်ရွက်ပါက မူလ ဒဂုံဗျူရီကုမ္ပဏီလီမိတက်ကိုစာရင်းရှင်းလင်းဖျက်သိမ်းရန်မလိုဘဲ Share Transfer ပြုလုပ်ခြင်းကိုအခြေခံ၍ ဖက်စပ်စာချုပ်ကိုပြင်ဆင်ခြင်း၊ ကုမ္ပဏီအတွင်း မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေကို အသုံးချကာ ရှယ်ယာဖွဲ့စည်းတည်ဆောက်မှုများပြင်ဆင်ခြင်းဖြင့် မြန်မာနိုင်ငံသားကုမ္ပဏီအဖြစ်သို့ဖွဲ့စည်းနိုင်မည်ဖြစ်ပါသည်၊

(၅) ဒဂုံဗျူရီကုမ္ပဏီလီမိတက်ကို အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန၊ ကုမ္ပဏီများမှတ်ပုံတင်ရုံးမှကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၃ ဂျေဗီ/၁၉၉၇-၁၉၉၈ ဖြင့်ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက်ကုမ္ပဏီအဖြစ် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ၁၅-၁၀-၁၉၉၇ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုထားပါသည်။ သို့ဖြစ်၍ ဖက်စပ်စာချုပ်ပြင်ဆင်ချက်၊ သင်းဖွဲ့မှတ်တမ်း နှင့်သင်းဖွဲ့စည်းမျဉ်း ပြင်ဆင်ချက်များကို အထက်ဖော်ပြပါအတိုင်း မှတ်ပုံတင်သွင်းရန် လို အပ်မည်ဖြစ်ပါသည်၊

(၆) ထို့ပြင် ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ပြည်ထောင်စုမြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးထားသော ခွင့်ပြုမိန့်(ပါမစ်)ကိုပြန်လည်အပ်နှံရန်ဖြစ်ပါသည်၊

(၇) ထို့နောက် ဒဂုံဗျူရီကုမ္ပဏီလီမိတက်သည် MEC ၏ ရှယ်ယာ ၈၅% နှင့် MGS ၏ ရှယ်ယာ ၁၅% ဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ၁၀၀% မြန်မာနိုင်ငံသားပိုင်ဖက်စပ် ကုမ္ပဏီဖြစ်လာသောကြောင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် သက်ဆိုင် အကျုံးဝင်သည့်စီးပွားရေး လုပ်ငန်းအမျိုးအစားတစ်ခုဖြစ်လာ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်ထံမှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးမည့်ခွင့်ပြုမိန့် (ပါမစ်)ကိုလျှောက်ထားရယူနိုင်မည်ဖြစ်ပါကြောင်း ထပ်လောင်းဖော်ပြအကြံပြု အပ်ပါ သည်။

၄။ သို့ပါ၍ အထက်ပါနည်းလမ်း(၁)နှင့် နည်းလမ်း(၂) နှစ်ရပ်တို့အနက် မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းအနေဖြင့် မိမိကြိုက်နှစ်သက်သည့်နည်းလမ်းကို ရွေးချယ်နိုင်ပါကြောင်းနှင့် ယင်းသို့ ရွေးချယ်မည့်နည်းလမ်းအတွက်အသုံးပြုလိုသည့် ဖက်စပ်စာချုပ်(မူကြမ်း)၊သင်းဖွဲ့မှတ်တမ်း(မူကြမ်း) ၊ သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)များကို ဤရုံးသို့ စိစစ်ရန်ပေးပို့နိုင်ပါကြောင်း ပြန်ကြားအပ် ပါသည်။

၅.၁၂.၉၈

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး)

မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း

နောက်ဆက်တွဲ (ဃ)

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**

**ကာကွယ်ရေးဝန်ကြီးဌာန**

**မြန်မာစီးပွားရေးကော်ပိုရေးရှင်း**

စာအမှတ်၊ ၄၀ / ၄၀ / ၃၈ / မစက
ရက်စွဲ၊ ၂၀၀၉ ခုနှစ် ဖေဖော်ဝါရီလ ၁၉ ရက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးမည့် ခွင့်ပြုမိန့်ချမှတ်ပေးနိုင်ပါရန်တင်ပြလျှောက်ထားခြင်း**

၁။ ဒဂုံဗျူရီကုမ္ပဏီလီမိတက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ (၁၀)အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးသော နောက်ဆက်တွဲ (က)ပါ (၁၉. ၅. ၉၇)ရက်စွဲပါခွင့်ပြုမိန့်အမှတ် ၂၅၈/၉၇ဖြင့် ဘီယာထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းများ ဆောင်ရွက်ရန် ခွင့်ပြုမိန့်ရရှိခဲ့ပြီး ကုမ္ပဏီများ မှတ်ပုံတင်ရုံး၏ (၁၅. ၁၀. ၉၇)ရက်စွဲပါစာအမှတ် ၁၃၇ဗွီ/၁၉၉၇-၉၈ဖြင့် လီမိတက်ကုမ္ပဏီအဖြစ် မှတ်ပုံတင် တည်ထောင်၍ လုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည်။ အဆိုပါလုပ်ငန်းအတွက် အစုရှယ်ယာရှင် (၃)ဦးမှ အောက်ပါ အတိုင်း ရင်းနှီးမြှုပ်နှံမှုများထည့်ဝင်၍ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်ခဲ့ကြပါသည် -

(အမေရိကန်ဒေါ်လာသန်းပေါင်း)

| ကုမ္ပဏီ | ရှယ်ယာအချိုး | ရှယ်ယာအရေအတွက် | ခွင့်ပြုမတည်ငွေရင်း |
|---|---|---|---|
| MEC | ၅၀ % | ၄,၇၈၈ | ၇. ၉၈ |
| Brewinvest | ၃၅ % | ၃,၃၅၄ | ၅. ၅၉ |
| MGS | ၁၅ % | ၁,၄၃၄ | ၂. ၃၉ |
| *စုစုပေါင်း* | *၁၀၀ %* | *၉,၅၇၆* | *၁၅. ၉၆* |

၂။ အစုရှယ်ယာတန်ဘိုးများ သတ်မှတ်ရာတွင် မတည်ငွေရင်းအား တရားဝင်ငွေလဲလှယ်နှုန်း (၁)ဒေါ်လာလျှင် (၆)ကျပ်ဖြင့် အမေရိကန်ဒေါ်လာမှ ကျပ်ငွေသို့ပြောင်းလဲပြီး အစုရှယ်ယာ(၁)စုလျှင် ၁၀,၀၀၀ ကျပ်သတ်မှတ်ကာ အစု ရှယ်ယာရှင်များထည့်ဝင်သည့် ရင်းနှီးမြှုပ်နှံမှုအချိုးအရ အစုရှယ်ယာအရေအတွက်များအား နောက်ဆက်တွဲ (ခ)ပါ အတိုင်း သဘောတူစာချုပ်တွင် ခွဲဝေသတ်မှတ်ခဲ့ကြပါသည် -

| | MEC | BI | MGS | စုစုပေါင်း |
|---|---|---|---|---|
| ရှယ်ယာအချိုး | ၅၀ | ၃၅ | ၁၅ | ၁၀၀ |
| မတည်ငွေရင်း(ဒေါ်လာသန်းပေါင်း) | ၇. ၉၈ | ၅. ၅၉ | ၂. ၃၉ | ၁၅. ၉၆ |
| မတည်ငွေရင်း(ကျပ်သန်း၊ငွေလဲနှုန်း ၆ကျပ်) | ၄၇. ၈၈ | ၃၃. ၅၄ | ၁၄. ၃၄ | ၉၅. ၇၆ |
| ရှယ်ယာအရေအတွက်(၁စုလျှင် ၁၀,၀၀၀ကျပ်) | ၄၇၈၈ | ၃၃၅၄ | ၁၄၃၄ | ၉၅၇၆ |

၃။ (၂၂. ၃. ၀၅)ရက်နေ့၌ ဒဂုံဗျူရီကုမ္ပဏီလီမိတက်တွင် ထည့်ဝင်ထားသော Brewinvest ၏ အစုရှယ်ယာ ၁၅%ကို မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ နောက်ဆက်တွဲ (ဂ)ပါအတိုင်း အပြီးသတ်ငွေပေးချေဝယ်ယူခဲ့ပြီးဖြစ်သဖြင့် လက်ရှိအစုရှယ်ယာရှင်များ၏ ရှယ်ယာအချိုးနှင့် မတည်ရင်းနှီးငွေများမှာ အောက်ပါအတိုင်း ပြောင်းလဲခဲ့ပြီးဖြစ်ပါသည်-

| ကုမ္ပဏီ | ရှယ်ယာအချိုး | ရှယ်ယာအရေအတွက် | မတည်ငွေရင်း |
|---|---|---|---|
| MEC | ၈၅ % | ၈,၁၄၂ | ၁၃. ၅၇ |
| MGS | ၁၅ % | ၁,၄၃၄ | ၂. ၃၉ |
| *စုစုပေါင်း* | *၁၀၀ %* | *၉,၅၇၆* | *၁၅. ၉၆* |

၄။ သို့ဖြစ်ပါ၍ လက်ရှိအစုရှယ်ယာရှင်များ၏ ရှယ်ယာအချိုးနှင့် မတည်ရင်းနှီးငွေများမှာ ပြင်ဆင်ပြောင်းလဲရန် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ နောက်ဆက်တွဲ (ဃ)ပါစာဖြင့် ရှေ့နေချုပ်ရုံး၏ သဘောထားရယူ၍ ပြန်လည်တင်ပြရန်နှင့် ဘဏ္ဍာရေးနှစ်အလိုက် အခွန်အရပ်ရပ် ပေးဆောင်ထားမှု အခြေအနေကိုပါ ပြန်လည်တင်ပြရန်ပြန်ကြားခဲ့ပါသည်။

၅။ ရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်အား တင်ပြတောင်းခံခဲ့ရာ ယခင်ချုပ်ဆိုထားသော ဖက်စပ်စာချုပ်နှင့် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများ အစရှိသည်တို့ကိုပြင်ဆင်ရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ပြည်ထောင်စု မြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးထားသော ခွင့်ပြုမိန့်ကို ပြန်လည်အပ်နှံခြင်း၊ မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးမည့်ခွင့်ပြုမိန့်ကို လျှောက်ထားရယူခြင်း အစရှိသည်တို့ကို ဆက်လက်ဆောင်ရွက် သွားရန်လိုအပ်မည်ဖြစ်ကြောင်း ရှေ့နေချုပ်ရုံးမှ နောက်ဆက်တွဲ (င)ပါစာဖြင့် အကြံပြုပြန်ကြားခဲ့ပါသည်။

၆။ ဒဂုံဗျူရီကုမ္ပဏီလီမိတက်အနေဖြင့် ပြည်တွင်းအခွန်ဦးစီးဌာနသို့ ဘဏ္ဍာရေးနှစ်အလိုက် အခွန်အရပ်ရပ် ပေးဆောင်ပြီးစီးမှုအထောက်အထားများပူးတွဲလျှက် ပြည်ထောင်စုမြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးထားသော ခွင့်ပြုမိန့်ကို ပြန်လည်အပ်နှံခွင့်ပြုနိုင်ပါရန် (၈. ၈. ၀၈)ရက်နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေး(၂၃/၂၀၀၈)သို့တင်ပြခဲ့ရာ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြ လမ်းညွှန်မှုခံယူရန် ဆုံးဖြတ်ခဲ့ကြပါသည်။

၇။ ဆုံးဖြတ်ချက်အရ(၁၇. ၉. ၀၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး အမှတ်စဉ် (၃၁/၂၀၀၈) သို့ဆက်လက်တင်ပြခဲ့ရာ နောက်ဆက်တွဲ(စ)ပါအတိုင်း တင်ပြပါ ပြည်ထောင်စုမြန်မာနိုင်ငံတော် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးထားသော ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံခွင့်ပြုခဲ့ပါသည်။

၈။ ကုမ္ပဏီမှနိုင်ငံခြားသားအစုရှယ်ယာနုတ်ထွက်သွားပြီးဖြစ်သဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရထုတ်ပေးမည့် ခွင့်ပြုမိန့်ကိုရယူနိုင်ရန်အတွက် ယခင်ချုပ်ဆိုထားသော ဖက်စပ်စာချုပ်အားပြင်ဆင်ချုပ်ဆိုခြင်း၊ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများအား ပြင်ဆင်ရေးသားပြီး မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ ဒါရိုက်တာ အဖွဲ့အထူးအစည်းအဝေးခေါ်ယူ၍ ပြင်ဆင်ရေးသားချက်များကို နောက်ဆက်တွဲ (ဆ)ပါ အထူးဆုံးဖြတ်ချက်(Special Resolution)ချမှတ် အတည်ပြုပြီး ရှေ့နေချုပ်ရုံးသို့ပေးပို့တင်ပြ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ နောက်ဆက်တွဲ (ဇ)ပါအတိုင်း ပြန်ကြားပေးပို့ခဲ့ပါသည်။

၉။ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ မူလဖက်စပ်စာချုပ်၊ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများအား ပြင်ဆင်ရေးသားထားပြီး ကျန်ရှိသည့် အစုရှယ်ယာရှင် (၂)ဦးမှလည်း အဆိုပါပြင်ဆင်ထားသော နောက်ဆက်တွဲ(ဈ)ပါ ဖက်စပ်စာချုပ် (Amendment to the Joint Venture Agreement)နှင့် နောက်ဆက်တွဲ(ည)ပါ သင်းဖွဲ့မှတ်တမ်း (MOA)၊ သင်းဖွဲ့စည်းမျဉ်း(AOA)များအပေါ်တွင် လက်မှတ်ရေးထိုးခဲ့ကြပြီးဖြစ်ပါသည်။

၁၀။ သို့ဖြစ်ပါ၍ ဒဂုံဗျူရီကုမ္ပဏီလီမိတက်တွင် မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် မြန်မာနိုင်ငံသားပိုင် မြန်မာဂိုးလ်ဒင်းစတားကုမ္ပဏီတို့က ၈၅ း ၁၅ဖြင့် အစုရှယ်ယာများအသီးသီးပိုင်ဆိုင်ထားပြီး ကုမ္ပဏီတွင် နိုင်ငံခြားသားပိုင် အစုရှယ်ယာ လုံးဝပါဝင်ခြင်းမရှိတော့သဖြင့် ဒဂုံဗျူရီကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ထုတ်ပေးသည့် ခွင့်ပြုမိန့်ကိုမူလခွင့်ပြုမိန့်၏ လက်ကျန်သက်တမ်းကာလအတွက် ခွင့်ပြုထုတ်ပေးနိုင်ရေးအတွက် နောက်ဆက်တွဲ(ဋ)ပါရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်နှင့်နောက်ဆက်တွဲ(ဌ)ပါလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များပူးတွဲလျှက်ပေးပို့တင်ပြလျှောက်ထားအပ်ပါသည်။

ဥက္ကဌ (ကျော်ဝင်း)
Major General Kyaw Win ( Retd )
Managing Director
Myanmar Economic Corporation

မိတ္တူကို

- စစ်ထောက်ချုပ်ရုံး
- ရှေ့နေချုပ်ရုံး
- ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ဒဂုံဗျူရီကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ (င)

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

Fax:95-67-406333

☎တယ်လီဖုန်း--၀၆၇-၄၀၆၃၃၃၊ ၄၀၆၀၇၅

စာအမှတ် ၊ရက-၇(ခ) /န-၀၇၂ / ၂၀၀၈(၁၅၈၇၅)
ရက်စွဲ၊ ၂၀၀၈ခုနှစ်၊အောက်တိုဘာလ ၃ ရက်။

အကြောင်းအရာ။ ။ ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် အားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအဖြစ်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပြောင်းလဲဆောင်ရွက်လိုပါ၍ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံခွင့် ပြုပါရန် တင်ပြခြင်း။

ရည် ညွှန်း ချက် ။ ။ ကာကွယ်ရေးဝန်ကြီးဌာန၊မြန်မာ့စီးပွားရေးကော်ပိုးရေးရှင်း၏(၃-၇-၂၀၀၈) ရက်စွဲပါစာအမှတ်၊ ၄၀/၄၀/၃၈ /မစက

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ရည်ညွှန်းချက်ပါ စာများဖြင့် ကာကွယ်ရေး ဝန်ကြီးဌာန၊မြန်မာ့စီးပွားရေး ကော်ပိုးရေးရှင်းမှ တင်ပြလာသည့်ကိစ္စကို (၁၇-၉-၂၀၀၈) ရက်နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၁၄/၂၀၀၈) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေးမှ ဒဂုံဗျူရီ ကုမ္ပဏီလီမိတက်အား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း အဖြစ်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပြောင်းလဲ ဆောင်ရွက်ရန် အတွက် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး

မြန်မာ့စီးပွားရေးကော်ပိုးရေးရှင်း။

ဖြန့်ဝေခြင်း။
၁။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၅။ နိုင်ငံခြားရေးဝန်ကြီးဌာန။
၆။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။
၇။ အလုပ်သမားဝန်ကြီးဌာန။
၈။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
၉။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၁၀။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၁။ အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန။
၁၂။ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ဝင်။(ပို့ဆောင်ရေးဝန်ကြီးဌာန)
၁၃။ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊အလုပ်သမားညွှန်ကြားရေးဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊အကောက်ခွန်ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ပြည်တွင်းအခွန်များဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့အာမခံလုပ်ငန်း။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း။
၂၄။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၂၅။ ဒဂုံဗျူရို ကုမ္ပဏီလီမိတက်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ...........၇၀၀.............. / ၂၀ ၀၉ ။ ၂၀ ၀၉ ခုနှစ်၊ မတ် လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ..........ဗိုလ်ချုပ်ကော်ဝင်း (ငြိမ်း)..........

(ခ) အဘအမည် ..........ဦးဘရှင်..........

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ..........ဘီကျ - ၀၁၉၇၈၅..........

(ဃ) နေရပ်လိပ်စာ ..........အမှတ် (၃၁)၊ မြက်ခင်းရိပ်သာလမ်း၊ ၆- မိုင်ခွဲ၊ လှိုင်မြို့နယ် ရန်ကုန်မြို့။..........

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ..........ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.)..........

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ..........ဘီယာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း..........

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ..........အမှတ်- ၅၅၅ (ခ)၊ အမှတ် (၄) လမ်းမကြီး၊ ရွှေပြည်သာမြို့နယ်၊..........

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ..........(၆၂၆၀. ၇၈) သန်း (ကျပ်ခြောက်ထောင် နှစ်ရာ့ ခြောက်ဆယ်သန်း၊ ခုနစ်သိန်း၊ ရှစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နောက်ဆက်တွဲ (ဆ)

SHARE TRANSFER K 100000

# Transf...

I Myanma Golden Star Co.,Ltd. (MGS) of Bldg: 7/8, Bahosi Yeiktha, Bogyoke Aung San Street, Lanmadaw Township, Yangon, Myanmar 3 SEP 2009

consideration of the sum of USD 2,390,000 paid to me by Myanmar Economic Corporation (MEC) of No.74/76, Shwe Dagon Pagoda Road, Dagon Township, Yangon, Myanmar do hereby transfer to the said transferee the 1434 shares number 8143 to 9576 standing in my name in the Books of the abovenamed Company to hold unto the said transferee, his Executors, Administrators , and Assigns, subject to the serveral conditions on which I held the same at the time execution thereof and I the said transferee do hereby agree to take the said shares subject to the same conditions.

As witness our hands the 3 day of September 2009

Daw Mya Sandar Aung
**Witness**
Myanma Golden Star Co.,Ltd.
**Designation**
Finance Manager
**Address**
Bldg: 7/8, Bahosi Yeiktha,
Bogyoke Aung San Street,
Lanmadaw Township, Yangon, Myanmar

U Thein Tun
**Transferor**
(For) Myanma Golden Star Co.,Ltd.
**Designation**
Chairman
**Address**
Bldg: 7/8, Bahosi Yeiktha,
Bogyoke Aung San Street,
Lanmadaw Township, Yangon, Myanmar

19.8.2009
Colonel Khin Maung Soe(Retd.)
**Witness**
Myanmar Economic Corporation
**Designation**
Deputy Managing Director
**Address**
No.74/76,Shwe Dagon Pagoda Road,
Dagon Township, Yangon, Myanmar

Brigadier General Thura Myint Thein(Retd.)
**Transferee**
(For) Myanmar Economic Corporation
**Designation**
Managing Director
**Address**
No.74/76,Shwe Dagon Pagoda Road,
Dagon Township, Yangon, Myanmar

# Transfer of Shares




Daw Mya Sandar Aung
**Witness**
Myanma Golden Star Co.,Ltd.
**Designation**
Finance Manager
**Address**
Bldg: 7/8, Bahosi Yeiktha,
Bogyoke Aung San Street,
Lanmadaw Township, Yangon, Myanmar

U Thein Tun
**Transferor** 3 SEP 2009
(For) Myanma Golden Star Co.,Ltd.
**Designation**
Chairman
**Address**
Bldg: 7/8, Bahosi Yeiktha,
Bogyoke Aung San Street,
Lanmadaw Township, Yangon, Myanmar

19.8.2009
Colonel Khin Maung Soe(Retd.)
**Witness**
Myanmar Economic Corporation
**Designation**
Deputy Managing Director
**Address**
No.74/76,Shwe Dagon Pagoda Road,
Dagon Township, Yangon, Myanmar

Brigadier General Thura Myint Thein(Retd.)
**Transferee**
(For) Myanmar Economic Corporation
**Designation**
Managing Director
**Address**
No.74/76,Shwe Dagon Pagoda Road,
Dagon Township, Yangon, Myanmar

နောက်ဆက်တွဲ (၈)

# Termination Agreement

This Termination Agreement is made on the 19th day of August, 2009 in Yangon, the Union of Myanmar, by and between;

**MYANMAR ECONOMIC CORPORATION,** a Corporation incorporated and existing under the laws of the Union of Myanmar (hereinafter called "MEC" which expression shall include its successors, legal representatives and permitted assigns) represented by Brigadier General Thura Myint Thein, Managing Director of "MEC", is one part;

**MYAMMA GOLDEN STAR COMPANY LIMITED,** a company incorporated and existing under the laws of the Union of Myanmar and having its registered office at Building No.7/8 Bahosi Yeiktha, Bogyoke Aung San Street, Lanmadaw Township, Yangon, Union of Myanmar (hereinafter called "MGS" which expression shall, include its successors, legal representatives and permitted assigns) represented by U Thein Tun, Managing Director of MGS of the other part:

**WHEREAS**

- MEC, MGS and Brewinvest (Bermuda) Ltd had entered the Joint Venture Agreement dated 4th June 1997 for the establishment of Dagon Brewery Company Ltd (hereinafter called "the Agreement")
- Dagon Brewery Co., Ltd (hereinafter called "the company") is formed and operated its functions with the permission of Myanmar Investment Commission and office of the Directorate of Company Registration Permission No: 258/97 dated (19.5.1997)
- Brewinvest (Bermuda) Co. Ltd, Foreign Shareholder had transferred its all shares to MEC on the dated of 22nd day of March 2005 inaccordance with the Myanmar Companies Act, and also MGS had transferred its all shares to MEC on the date of 1st April 2009 inaccordance with the Myanmar Companies Act;

AND WHEREAS, 100% share of the Dagon Brewery Co., Ltd has been owned by MEC and in the view of the parties agree to terminate the Agreement;

NOW THEREFORE the parties agree as follows: -

1. Save as specifically stated in the Letter of Undertaking dated 19th, August, 2009 made by U Thein Tun (MGS), the terms and Conditions of the Agreement and all supplementary agreements shall no longer apply to either party and all Agreements shall be terminated in its entirely by this Termination Agreement.

2. This Termination Agreement shall come into effect on the date of signing by both parties.

IN WITNESS HERE OF the parties here to have caused this Termination Agreement to be executed by their respective duly authorized and empowered representatives, on the day and date first above mentioned.

**FOR AND ON BEHALF OF**
Myanmar Economic Corporation
Brigadier General Thura Myint Thein(Retd.)
Managing Director
Myanmar Economic Corporation

**FOR AND ON BEHALF OF**
Myanma Golden Star Co., Ltd.
U Thein Tun
Chairman
Myanma Golden Star Co., Ltd.

19.8.2009

**In the presence of :**

(1) Colonel Khin Maung Soe(Retd.)
Deputy Managing Director
Myanmar Economic Corporation

(2) Daw Mya Sandar Aung
Finance Manager
Myanma Golden Star Co., Ltd.

နောက်ဆက်တွဲ (၈)

၁၉၅၀ ပြည့်နှစ်၊ အထူးကုမ္ပဏီအက်ဥပဒေနှင့်
မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေတို့အရ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

ဒဂုံဗျူရီကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

◈◈◈◈◈◈◈◈◈

**UNDER THE SPECIAL COMPANY ACT, 1950 AND**
**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

**And**

**Articles Of Association**

**Of**

**DAGON BREWERY COMPANY LIMITED**

# ၁၉၅၀ ပြည့်နှစ်၊ အထူးကုမ္ပဏီအက်ဥပဒေနှင့် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ တို့အရ

## အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီလီမိတက်

## ဒဂုံဗျူရီကုမ္ပဏီလီမိတက်

## ၏

## သင်းဖွဲ့မှတ်တမ်း

◈◈◈◈◈◈◈◈◈

၁။ ကုမ္ပဏီ၏ အမည်သည် ဒဂုံဗျူရီကုမ္ပဏီလီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ၏ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ -

(က) ဘီယာထုတ်လုပ်သည့် စက်ရုံတည်ထောင်ပြီး၊ ဘီယာထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်းနှင့်ရောင်းချခြင်း၊ ကနဦးတွင် ပြည်တွင်း၌ ဖြန့်ဖြူးရောင်းချပြီး၊ နောင်တွင်ပြည်ပသို့ တင်ပို့ရောင်းချရန်၊

(ခ) အထက်ဖော်ပြပါလုပ်ငန်းများတွင် လိုအပ်သည့်စက်ကရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့်အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊ တစိတ်တဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်။

(ဂ) ကုမ္ပဏီမှသင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

(ဃ) လက်ရှိပြဋ္ဌာန်းထားသည့် တရားဥပဒေများကခွင့်ပြုထားသည့် ဒါရိုက်တာအဖွဲ့က အချိန်ကာလအားလျော်စွာဆုံးဖြတ်သည့် မည်သည့်စီးပွားရေးလုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများမဆို လုပ်ကိုင်ရန်၊

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသောတရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များကခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်း မပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီ သင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

၄။ အစုရှင် မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၁၀,၀၀၀,၀၀၀,၀၀၀/-(ကျပ်သန်းတစ်သောင်းတိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/- (ကျပ်တစ်သောင်းတိတိ) တန်သာမန်အစုရှယ်ယာပေါင်း (၁,၀၀၀,၀၀၀) ခွဲထားသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။ မြန်မာစီးပွားရေးကော်ပိုရေးရှင်းသည် ရှယ်ယာ တစ်စုလျှင်ကျပ် ၁၀,၀၀၀/-(ကျပ်တစ်သောင်းတိတိ)တန် သာမန် အစုရှယ်ယာ (၁,၀၀၀,၀၀၀)(တစ်သန်း)ထည့်ဝင်မည်။ ထိုသို့ ကုမ္ပဏီ၏ အစုရှယ်ယာများ ထည့်ဝင်ပြီးပါက ကုမ္ပဏီသည် အစုရှင်မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ မတည်ငွေရင်း၏ ၁၀၀ % ပိုင်ဆိုင်သော ကုမ္ပဏီအဖြစ် အမြဲရှိစေရမည်။

၆။ ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် မြန်မာစီးပွားရေးကော်ပိုရေးရှင်း အနေဖြင့် အစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ပြီး ကုမ္ပဏီ၏ငွေရေးကြေးရေး၊ ကုန်ထုတ်လုပ်မှု နှင့်ကုန်စည်ဖြန့်ဖြူးရောင်းချရေးဆိုင်ရာကိစ္စအဝဝကို ဦးဆောင်လမ်းညွှန်မှုပေးမည့် ဒါရိုက်တာအဖွဲ့အဖြစ် မြန်မာစီးပွား ရေးကော်ပိုရေးရှင်းကိုယ်စား အောက်တွင် အမည်၊ နေရပ်နှင့်အကြောင်းအရာ စုံလင်စွာပါသော ဇယား၌ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် သဘောတူလက်မှတ်ရေးထိုးကြပါသည် -

| စဉ် | ဒါရိုက်တာအဖွဲ့ဝင်များ၏ အမည်၊နေရပ်လိပ်စာနှင့်အကြောင်းအရာ | နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| | **မြန်မာစီးပွားရေးကော်ပိုရေးရှင်း ကို** ကိုယ်စားပြုသူများ - | မြန်မာနိုင်ငံတွင် တည်ထောင်သည်။ | ၁,၀၀၀,၀၀၀ | |
| ၁။ | ဗိုလ်မှူးချုပ်သူရ မြင့်သိန်း(ငြိမ်း) အမှတ်(၇၂)၊မြက်ခင်းရိပ်သာလမ်း၊ ၆မိုင်ခွဲ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ (ဥက္ကဋ္ဌ) | ဗမာ ၉/မထလ(နိုင်) ၀၀၉၉၃၆ | | |
| ၂။ | ဗိုလ်မှူးကြီးထွန်းလှအောင် တိုက်(၁၀)၊အခန်း (က)၊ ငုဝါရိပ်သာ၊ နေပြည်တော် (ဒါရိုက်တာ) | ဗမာ ၉/မနမ (နိုင်) ၀၉၆၅၁၂ | | |
| ၃။ | ဗိုလ်မှူးလှမင်းတူ(ငြိမ်း) တိုက်အမှတ်(၄၈)၊ အခန်း(၁)၊ မြဝတီအိမ်ယာ၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ (ဒါရိုက်တာ) | ဗမာ ၅/ကသန(နိုင်) ၀၀၁၂၅၁ | | |

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

နေရာ။ ရန်ကုန်

ရက်စွဲ။ ၂၀၀၉ ခုနှစ်၊ လ ရက်

U BA YU
Certified Public Accountant
No.14, Aungthiri Street(1),
BlockNo.28,Dagonmyothit(North)Township,
Yangon. Ph-581388

# UNDER THE SPECIAL COMPANY ACT, 1950

# AND

# THE MYANMAR COMPANIES ACT

# PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

## Of

## DAGON BREWERY COMPANY LIMITED

◈◈◈◈◈◈◈◈◈

1. The name of the Company is DAGON BREWERY COMPANY LIMITED.
2. The registered office of the Company will be situated in the Union of Myanmar.
3. The objects for which the Company is established are as follows;-
   - (a) To establish a Brewery for the production, distribution and sales of beer. To initially sell and distribute locally and intend to export in future.
   - (b) To import machinery, spare parts, raw materials and other necessary for those activities mentioned above and to sell wholesale or retail of the finished and semi-finished products locally and abroad.
   - (c) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.
   - (d) To carry on any economic activities or services permitted by the laws for the time being in force and duly decided upon by the Board of Directors from time to time.

   *PROVISO:- Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notification of the Union of Myanmar for the time being in force.*

4. The liability of the members is limited.

5. The Authorised Capital of the Company is Ks 10,000,000,000/- (Kyats Ten Thousand Million only) divided into (1,000,000) (One Million) shares of Ks 10,000/- (Kyats Ten Thousand only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being force in this behalf. The Myanmar Economic Corporation (MEC) will subscribe 1,000,000 (One Million) ordinary shares of Ks 10,000/- . Following upon the subscription and payments of the shares in the Company, the share capital of the Company shall at all times be held by the Myanmar Economic Corporation (MEC) hereto in the 100% proportions (expressed in percentage of such issue and paid up capital):

6. We, the following persons, whose names, nationality, addresses, and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and the share investment of the company is invested by Myanmar Economic Corporation then we sign on behalf of Myanmar Economic Corporation as Board of Directors who shall direct the matters of Finance, Production, Sales & Distribution of the company.

| Sr. No. | Name, Address, and Description of the Directors | Nationality & N.R.C No. | Numbers of Shares | Signature |
|---|---|---|---|---|
| | **Myanmar Economic Corporation Represented by :** | Incorporated in Myanmar | 1,000,000 | |
| 1. | Brigadier General Thura Myint Thein (Retd) No.(72), Myet Khin Yeik Tha Street, 6½ Mile, Hlaing Tsp, Yangon. (Chairman) | Bamar 9/Ma Hta La (Naing)009936 | | |
| 2. | Colonel Tun Hla Aung Room(A),Bldg. (10), Nu Warr Yeik Tha , Naypyidaw (Director) | Bamar 9/Ma Na Ma (Naing)096512 | | |
| 3. | Major Hla Min Tu (Retd) Bldg No.(48), R (1), Myawaddy Yeik Tha, Mingalartaungnyut Tsp, Yangon. (Director) | Bamar 5/Ka Tha Na (Naing) 001251 | | |

It is hereby certified that the persons mentioned above put their signatures in my presence.

Place : Yangon.

Date : The day of 2009

U BA YU
Certified Public Accountant
No.14, Aungthiri Street(1),
Block No.28,Dagonmyothit(North)Township,
Yangon. Ph-581388

# ၁၉၅၀ ပြည့်နှစ်၊ အထူးကုမ္ပဏီအက်ဥပဒေနှင့် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေတို့အရ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီလီမိတက်

## ဒဂုံဗျူရိုကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

◈◈◈◈◈◈◈◈◈

**ပဏာမ**

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့်လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ "က"ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂)တွင်ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်အစဉ်သဖြင့် သက်ဆိုင် စေရမည်။

**အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ**

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည်အကျိုး သက်ရောက်စေရမည် -

(က) ဤကုမ္ပဏီက ခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ပိုင်ဆိုင်သူ မှာ မြန်မာစီးပွားရေးကော်ပိုရေးရှင်းတစ်ဦးတည်းသာဖြစ်သည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်သည်။

**မတည်ရင်းနှီးငွေနှင့် အစုရှယ်ယာ**

၃။ ကုမ္ပဏီ၏မတည်ငွေရင်းသည် ကျပ် ၁၀,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်သောင်းတိတိ) ဖြစ်၍ငွေကျပ် ၁၀,၀၀၀/-(ကျပ်တစ်သောင်းတိတိ)တန် သာမန်အစုရှယ်ယာပေါင်း (၁,၀၀၀,၀၀၀)ခွဲထားသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။ မြန်မာစီးပွားရေးကော်ပိုရေးရှင်းသည် ရှယ်ယာတစ်စုလျှင် ကျပ်၁၀,၀၀၀/-(ကျပ်တစ်သောင်းတိတိ)တန် သာမန်အစု ရှယ်ယာ (၁,၀၀၀,၀၀၀) (တစ်သန်း) ထည့်ဝင်မည်။ ထိုသို့ ကုမ္ပဏီ၏ အစုရှယ်ယာများ ထည့်ဝင်ပြီးပါက ကုမ္ပဏီသည် အစုရှင်မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ မတည်ငွေရင်း၏ ၁၀၀%ပိုင်ဆိုင်သော ကုမ္ပဏီအဖြစ် အမြဲရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါ ပြဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင်ရှိစေရမည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့်ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထားတစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်က ၎င်း၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်ကလည်း ၎င်းတောင်းဆိုသည့်အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်နေရာနှင့်အချိန်တွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှု တစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

**ကုမ္ပဏီရေးရာ**

၇။ (က) ကုမ္ပဏီ၏စီမံခန့်ခွဲမှုကို ဒါရိုက်တာအဖွဲ့က တာဝန်ယူရမည်။ အမှုဆောင်အုပ်ချုပ်မှုအဖွဲ့သည် ဒါရိုက်တာအဖွဲ့၏ကြီးကြပ်မှုဖြင့် ကုမ္ပဏီ၏ နေ့စဉ်တာဝန်များကိုဆောင်ရွက်ရမည်။ ဒါရိုက်တာအဖွဲ့သည် ကုမ္ပဏီရေးရာများကို ကြီးကြပ်ရမည့်အပြင် ကုမ္ပဏီ၏လုပ်ငန်းများပီပြင်စွာ ဆောင်ရွက်နိုင်ရန် သင့်လျော်သော အဖွဲ့အစည်းများဖွဲ့စည်းရန် စီစဉ်ပေးရမည်။

(ခ) အထွေထွေမန်နေဂျာသည် ကုမ္ပဏီ၏အမှုဆောင် အုပ်ချုပ်မှုအဖွဲ့ဝင်ဖြစ်ရမည်။ အထွေထွေမန်နေဂျာနှင့်ကုမ္ပဏီဝန်ထမ်းများကို ဒါရိုတ်တာအဖွဲ့နှင့် အခါအားလျော်စွာ တိုင်ပင်၍ ကုမ္ပဏီ၏အလုပ်ခန့်ထားခြင်း၊ အလုပ်ရပ်စဲခြင်းများကို ဆောင်ရွက်ရမည်။ အခြားအမှုဆောင် အုပ်ချုပ်မှုအဖွဲ့ဝင်များကို ကုမ္ပဏီမှခန့်ထားနိုင်သည်။ နိုင်ငံခြားမှဝန်ထမ်းများကို အနည်းဆုံးခန့်ထား ရမည်။

(ဂ) အမှုဆောင်အုပ်ချုပ်မှုအဖွဲ့သည် ကုမ္ပဏီ၏နေ့စဉ်လုပ်ငန်းများကို ကြီးကြပ် ရမည်ဖြစ်ပြီး၊ ဒါရိုက်တာအဖွဲ့သို့ အစီရင်ခံစာတင်ပြရမည့်အပြင် ဒါရိုက်တာအဖွဲ့၏ ညွှန်ကြားချက်များ၊ အမိန့်များ၊ ဆုံးဖြတ်ချက်များနှင့် အတည်ပြုချက်များကို အစဉ်လိုက်နာရမည်။ နေ့စဉ်စီမံခန့်ခွဲမှု လုပ်ငန်းတွင် ခြွင်းချက်ကိစ္စ သို့မဟုတ် အဓိကအရေးကြီးသည့်ကိစ္စနှင့်စပ်လျဉ်း၍ ဆုံးဖြတ်ရန်ကိစ္စများ မပါဝင်စေရ။ အမှုဆောင်အုပ်ချုပ်မှုအဖွဲ့သည် ကုမ္ပဏီ၏ငွေစာရင်းစာအုပ်များကို သက်ဆိုင်သည့်ဥပဒေများနှင့်အညီထားရှိစေရန် ဆောင်ရွက်ရမည့်အပြင် ကုမ္ပဏီ၏ရပိုင်ခွင့်များ စီမံအုပ်ချုပ်ရာတွင် ဒါရိုက်တာအဖွဲ့၏ ကျေနပ်မှုရရှိသည့် နည်းလမ်းဖြင့် အကောင်အထည်ဖော်ဆောင်ရွက်စေရမည်။

**ဒါရိုက်တာများအဖွဲ့ ဖွဲ့စည်းခြင်း**

၈။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏အရေအတွက်သည် (၃)ဦးပါဝင်မည်ဖြစ်ပါသည်။ ဒါရိုက်တာများမှာ အောက်ပါပုဂ္ဂိုလ်များ ဖြစ်ကြပါသည် -

(က) ဗိုလ်မှူးချုပ်သူရမြင့်သိန်း (ငြိမ်း)

( ခ) ဗိုလ်မှူးကြီးထွန်းလှအောင်

( ဂ) ဗိုလ်မှူးလှမင်းတူ (ငြိမ်း)

**ဒါရိုက်တာအဖွဲ့ ဥက္ကဌ**

၉။ ဒါရိုက်တာအဖွဲ့ဥက္ကဌအဖြစ် ဒါရိုက်တာအဖွဲ့ဝင်များထဲမှ တစ်ဦးကို မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှခန့်ထားပြီး၊ သက်တမ်း (၂)နှစ် ဆောင်ရွက်ရန်နှင့်နောင်သက်တမ်းများတွင် ပြန်လည်ရွေးချယ်ခံနိုင်သည်။

**အထူးဆုံးဖြတ်ချက်**

၁၀။ အောက်ဖော်ပြပါ အထူးဆုံးဖြတ်ချက်များကို ဒါရိုက်တာအဖွဲ့ဝင်အားလုံးမှ တစ်ညီတစ်ညွတ်တည်း ဆုံးဖြတ်ဆောင်ရွက်ရမည် -

(က) ကုမ္ပဏီက ကုမ္ပဏီပိုင် မရွှေ့မပြောင်းနိုင်သည့်ပစ္စည်းများကို ရယူခြင်း၊ ငှားရမ်းခြင်း သို့မဟုတ် ရောင်းချခြင်း။

(ခ) ကုမ္ပဏီပိုင် ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းဖြစ်စေ၊ မရွှေ့ပြောင်းနိုင်သည့်ပစ္စည်းဖြစ်စေ၊ ယင်းပစ္စည်း၏အကျိုးအမြတ်ကိုဖြစ်စေ ပေါင်နှံခြင်း။

(ဂ) အမေရိကန်ဒေါ်လာ ၁၀,၀၀၀ အထက်နှင့်ညီမျှသော ငွေကြေးများကိုကုမ္ပဏီအမည်ဖြင့် ချေးခြင်း သို့မဟုတ် ချေးငွေရယူခြင်း။

(ဃ) ကုမ္ပဏီ၏အမြတ်ခွဲဝေပေးမည့် အချိန်ကာလနှင့် ခွဲဝေပေးမည့်ပမာဏနှင့် စပ်လျဉ်း၍ ဆုံးဖြတ်ခြင်း။

(င) ကုမ္ပဏီ၏ရင်းနှီးငွေကို တိုးမြှင့်ခြင်း၊ လျှော့ချခြင်းနှင့်ပြင်ဆင်ခြင်းများ ဆောင်ရွက်နိုင်ရေးအတွက် အထွေထွေသင်းလုံးကျွတ်အစည်းအဝေးသို့တင်ပြခြင်း။

**ဒါရိုက်တာအဖွဲ့အစည်းအဝေး အထမြောက်ဦးရေ**

၁၁။ (က) ဒါရိုတ်တာအဖွဲ့ အစည်းအဝေးအားလုံးအထမြောက်ရန် ဒါရိုက်တာ(၂)ဦး တက်ရောက်ရမည်။

( ခ) အစည်းအဝေးကျင်းပရန် သတ်မှတ်ထားသောအချိန်မှ မိနစ်(၃၀)အတွင်း အစည်းအဝေးအထမြောက်ရန်လိုအပ်သော ဦးရေမတက်ရောက်လျှင် အစည်းအဝေးကို မူလသတ်မှတ်ထား သည့်နေရာ၊ အချိန် သို့မဟုတ် ဒါရိုက်တာအဖွဲ့ သတ်မှတ်သည့်နေရာနှင့် အချိန်တွင်ကျင်းပရန် နောက်(၁၄)ရက် ရွှေ့ဆိုင်းရမည်။ နောင်တွင်ကျင်းပမည့်အစည်းအဝေးတွင် အစည်းအဝေးအထမြောက်ရန် ဒါရိုက်တာ(၂)ဦး တက်ရောက်လျှင် အစည်းအဝေးအထမြောက်ရမည်။ ဒါရိုက်တာအဖွဲ့ အစည်းအဝေးရွှေ့ဆိုင်းသည့် နို့တစ်စာကို ဒါရိုက်တာတစ်ဦးစီထံသို့ ပေးပို့ရမည့်အပြင် ရွှေ့ဆိုင်းထားသည့် အစည်းအဝေးတွင် မူလအစည်းအဝေး၌ဆွေးနွေးမည့် စီးပွားရေးလုပ်ငန်းများမှအပ အခြား စီးပွားရေးလုပ်ငန်းများကို ဆောင်ရွက်ခွင့်မရှိစေရ။

၁၂။ ဒါရိုက်တာအဖွဲ့၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်နိုင်သည်။ မည်သို့ဆိုစေကာမူ ပြက္ခဒိန်နှစ် တစ်နှစ်အတွင်း အနည်းဆုံး တစ်ကြိမ်ခေါ်ယူရမည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့်ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

**ဒါရိုက်တာများ၏ အခွင့်အာဏာများနှင့် တာဝန်များ**

၁၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင်ပေးအပ်ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(က) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများသတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များကို သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(ခ) သင့်တော်သောစည်းကမ်းချက်များဖြင့် ငွေကြေးများကိုချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသောငွေကြေးများကိုပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့်နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်အဖြစ်ထားရှိရန်၊

(ဂ) ဤကုမ္ပဏီကရယူသောအခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့်ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(ဃ) ဤကုမ္ပဏီနှင့်ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍

သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်းဆောင်ရွက်ရန်။

(င) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကိုသတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများတောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(စ) မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ ခန့်ထားသည့် ကုမ္ပဏီဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ အထွေထွေမန်နေဂျာအဖြစ် ခန့်ထားရန်နှင့် အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာများကို ကုမ္ပဏီမှခန့်ထားရန်။

(ဆ) ဤကုမ္ပဏီကပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းအရာများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့်ပတ်သက်၍ လိုအပ်သောစာချုပ်စာတမ်းများကို ချုပ်ဆိုပြုလုပ်ရန်။

(ဇ) ဤကုမ္ပဏီ၏အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သောတရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီကရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူကျေအေးခြင်းများ ပြုလုပ်ရန်။

(ဈ) ဤကုမ္ပဏီကပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေးခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(ည) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များ၊ ကုမ္ပဏီသို့ပေးရန်ရှိသောငွေကြေးများအတွက် ပြေစာများပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(ဋ) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီမဆပ်နိုင်ခြင်း ကိစ္စများနှင့်ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(ဌ) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စီစစ်သတ်မှတ်ရန်။

(ဍ) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလောအသုံးပြုရန် မလိုသေးသောကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်

ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသော ငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလဲရန်။

(ပ) ဤကုမ္ပဏီ၏အကျိုးအတွက် ငွေကြေးစိုက်ထုတ်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏(လက်ရှိနှင့်နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန်၊ အဆိုပါပေါင်နှံခြင်း ဆိုင်ရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသောသဘောတူညီထားသည့် တရားဝင်သဘောတူညီ ချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(ဏ) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့ သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(တ) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာသတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(ထ) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့်ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကိုပြုလုပ်ရန်၊ ဖျက်သိမ်းရန် နှင့်ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက်စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကိုလည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(ဒ) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ဤကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

**အထွေထွေအစည်းအဝေးကြီးများ**

၁၅။ ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်း တည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေ အစည်းအဝေး ကြီးနှင့် တစ်ဆယ့်ငါးလ ထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ အထွေထွေ အစည်းအဝေးကြီး အထမြောက်ရန် အစည်းအဝေး တစ်လျှောက်လုံးတွင် အနည်းဆုံးအဖွဲ့ဝင် (၂)ဦး (ကိုယ်တိုင်ဖြစ်စေ သို့မဟုတ် လုပ်ကိုင်ခွင့်ရ ကိုယ်စား လှယ် သို့မဟုတ် ရှေ့နေ) တက်ရောက်ရမည်။ အစည်းအဝေးကျင်းပရန် သတ်မှတ်ထားသော အချိန်မှ မိနစ်(၃၀) အတွင်း အစည်းအဝေးအထမြောက်ရန် လိုအပ်သောဦးရေ မတက်ရောက်လျှင် အစည်းအဝေးကို မူလသတ်မှတ် ထားသည့် နေရာနှင့်အချိန်တွင် ကျင်းပရန် အဆိုပါရက် နောက်ရက်သတ္တပတ်သို့ ရွှေ့ဆိုင်းရမည်။ ရွှေ့ဆိုင်း ကျင်းပသည့်အစည်းအဝေးတွင် အစည်အဝေးအထမြောက်ရန် အဖွဲ့ဝင် (၂)ဦး (ကိုယ်တိုင်ဖြစ်စေ သို့မဟုတ် လုပ်ကိုင်ခွင့်ရ ကိုယ်စားလှယ်၊ ကိုယ်စားလှယ် သို့မဟုတ် ရှေ့နေ) တက်ရောက်ရမည်။ အထွေထွေအစည်းအဝေးကြီး ရွှေ့ဆိုင်းသည့်

နို့တစ်စာကို ဒါရိုက်တာတစ်ဦးစီထံသို့ ပေးပို့ရမည့်အပြင် ရွှေ့ဆိုင်းထားသည့် အစည်းအဝေးတွင် မူလအစည်းအဝေး၌ ဆွေးနွေးမည့်စီးပွားရေးလုပ်ငန်းများမှအပ အခြားစီးပွားရေး လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခွင့်မရှိစေရ။

**အမြတ်ဝေစုများ**

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်အား ခွဲဝေပေးမည့်အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည်ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက်မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

**ရုံးဝန်ထမ်းများ**

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး ဤသင်းဖွဲ့စည်းမျဉ်းအပိုဒ် ၁၄ (စ)ပါပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေမန်နေဂျာကို ခန့်ထားမည်ဖြစ်သည်။ အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ကုမ္ပဏီမှ ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့်အခကြေးငွေများကို ဒါရိုက်တာအဖွဲ့ကသတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ထိရောက်စွာ လုပ်ငန်းလည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး ဒါရိုက်တာအဖွဲ့အား တာဝန်ခံ၍ဆောင်ရွက်ရမည်။

**ငွေစာရင်းများ**

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့်ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့် အညီ စနစ်တကျထားသို ထိန်းသိမ်းဆောင်ရွက်ရမည် -

(က) ကုမ္ပဏီ၏ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(ခ) ကုမ္ပဏီ၏ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(ဂ) ကုမ္ပဏီ၏ရပိုင်ခွင့်၊ ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

**စာရင်းစစ်**

၂၀။ စာရင်းစစ်များကိုခန့်ထားခြင်းနှင့် ယင်းတို့၏တာဝန်များ သတ်မှတ်ပေးခြင်းတို့သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ၁၄၅-က သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဖြစ်စေရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံးဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှမသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၈၆(ဂ)တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး၊ သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ၊ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအားဖျက်သိမ်းနိုင်သည်။ ယင်းသို့ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့်စည်းကမ်းချက်များအတိုင်း လိုက်နာပြုလုပ်ရမည်။

၂၅။ ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် မြန်မာစီးပွားရေးကော်ပိုရေးရှင်း အနေဖြင့် အစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ပြီး ကုမ္ပဏီ၏ငွေရေးကြေးရေး၊ ကုန်ထုတ်လုပ်မှု နှင့်ကုန်စည်ဖြန့်ဖြူးရောင်းချရေးဆိုင်ရာကိစ္စအဝဝကို ဦးဆောင်လမ်းညွှန်မှုပေးမည့် ဒါရိုက်တာအဖွဲ့အဖြစ် မြန်မာစီးပွား ရေး ကော်ပိုရေးရှင်းကိုယ်စား အောက်တွင် အမည်၊ နေရပ်နှင့်အကြောင်းအရာ စုံလင်စွာပါသောဇယား၌ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် သဘောတူလက်မှတ်ရေးထိုးကြပါသည် -

| စဉ် | ဒါရိုက်တာအဖွဲ့ဝင်များ၏ အမည်၊နေရပ်လိပ်စာနှင့်အကြောင်းအရာ | နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| | မြန်မာစီးပွားရေးကော်ပိုရေးရှင်း ကို ကိုယ်စားပြုသူများ - | မြန်မာနိုင်ငံတွင် တည်ထောင်သည်။ | ၁,၀၀၀,၀၀၀ | |
| ၁။ | ဗိုလ်မှူးချုပ်သူရ မြင့်သိန်း(ငြိမ်း) အမှတ်(၇၂)၊မြက်ခင်းရိပ်သာလမ်း၊ ၆မိုင်ခွဲ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ (ဥက္ကဌ) | ဗမာ ၉/မထလ(နိုင်) ၀၀၉၉၃၆ | | |
| ၂။ | ဗိုလ်မှူးကြီးထွန်းလှအောင် တိုက်(၁၀)၊အခန်း (က)၊ ၄ဝါရိပ်သာ၊ နေပြည်တော် (ဒါရိုက်တာ) | ဗမာ ၉/မနမ (နိုင်) ၀၉၆၅၁၂ | | |
| ၃။ | ဗိုလ်မှူးလှမင်းတူ(ငြိမ်း) တိုက်အမှတ်(၄၈)၊ အခန်း(၁)၊ မြဝတီအိမ်ယာ၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ (ဒါရိုက်တာ) | ဗမာ ၅/ကသန(နိုင်) ၀၀၁၂၅၁ | | |

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

နေရာ။ ရန်ကုန်

ရက်စွဲ။ ၂၀၀၉ ခုနှစ်၊ လ ရက်

U BA YU
Certified Public Accountant
No.14, Aungthiri Street(1),
Block No.28,Dagonmyothit(North)Township,
Yangon. Ph-581388

**UNDER THE SPECIAL COMPANY ACT, 1950**

**AND**

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

## Articles Of Association

## Of

## DAGON BREWERY COMPANY LIMITED

◈◈◈◈◈◈◈◈◈

1. The regulations contained in Table "A" in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The Compulsory regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

**PRIVATE COMPANY**

2. The Company is to be a Private Company and accordingly following provisions shall have effect:

   (a) *The owner of the shares of this Company is only the Myanmar Economic Corporation, exclusive of persons who are in the employment of the Company.*

   (b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

**CAPITAL AND SHARES**

3. The Authorised Capital of the Company is Ks 10,000,000,000/-(Kyat Ten Thousand Million Only) divided into (1,000,000) (One Million) shares of Ks 10,000/- (Kyats Ten Thousand only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the Legislative provisions for the time being force in this behalf. The Myanmar Economic Corporation (MEC) will subscribe 1,000,000 (One Million) ordinary shares of Ks 10,000/- . Following upon the subscription and payments of the shares in the Company, the share capital of the Company shall at all times be held by the Myanmar Economic Corporation (MEC) hereto in the 100% proportion.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors.

5. The certificate of title to share shall be issued under the Seal of the Company and signed by General Manager or some other persons nominated by the Board of Director. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fees, if any, and on such terms, if any, as to evidence and indemnity as the Director may think fit.

6. The Directors may from time to time make calls upon the share-holder in respect of any amount of cash unpaid on its shares. The share-holder shall be liable to pay the amount of every calls to the person, at the time and place appointed by the directors. A call may be made payable by instalments or may be revoked or postponed as the directors may determind.

**THE AFFAIRS OF THE COMPANY**

7. (a) The management of the Company shall be undertake by the Board which shall supervise of the Executive Management which will be responsible for the day-to-day running of the Company. The Board shall supervise the affairs of the Company and shall arrange for the proper organization of its activities.

(b) The General Manager who shall be a member of the Executive Management of the Company shall be appointed and dismissed in consultation with the Board of Directors from time to time and the remaining members of the Executive Management shall be appointed by the Company. The expatriate personnel shall be kept at a minimum.

(c) The Executive Management will be in charge of the management of the day-to- day business of the Company and must report to the Board will at times comply, with the instructions, orders, decisions and approvals of the Board the day- to- day management shall not include transactions which, considering the position of the Company, are of an exceptional nature or of material importance. The Executive Management must also ensure that the books of accounts of the Company are kept in accordance with all relevant laws and that the administration of the assets of the Company is carried out in a manner satisfactory to the Board.

**COMPOSITION OF THE BOARD**

8. The Board will comprise of (3) members by Myanmar Economic Corporation.

The Directors shall be: -

(a) Brigadier Gerenal Thura Myint Thein (Retd)

(b) Colonel Tun Hla Aung

(c) Major Hla Min Tu (Retd)

**CHAIRMAN OF THE BOARD**

9. The Chairman of the Board will be nominated from among the members of the Board and shall hold office for a term of two (2) years but may be re-elected for successive terms.

**SPECIAL DECISIONS**

10. The following Board Decisions shall be on a Unanimious basis:

(a) the acquisition, lease or disposal by the Company of any substantial immovable property of the Company;

(b) the mortgage of charge of any property of the Company or the Company or any interest therein, whether movable or immovable;

(c) the lending or borrowing of money in the name of the Company exceeding an amount equivalent to US$ 10,000/-;or

(d) decision in respect of the amount or timing of distribution of dividends.

(e) submission to the Annual General Meeting, either to increase, reduce or alter the Autohrized Capital of the Company.

**QUORUM OF BOARD**

11. (a) The quorum for all meetings of the Board shall be two (2) Directors.

(b) If a quorum is not present within thirty(30)minutes of the time appointed for the holding of a meeting of the Directors, the meeting shall stand adjourned for fourteen (14)days at the same time and place, or to such other day and at such other time and place as the Directors may determine and the quorum at any adjourned meeting of the Directors shall be any two (2) Directors.Notice of any adjourned meeting of the Director shall be given to each Director and no business shall be transacted at any adjourned of the Directors other than the business which might have been transacted at the meeting from which the adjournment took place.

12. Any Director may at any time summon a meeting of Directors, however, at least one meeting per calendar year shall be summoned.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

**POWERS AND DUTIES OF DIRECTORS**

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

    (a) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit, also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

    (b) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

    (c) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

    (d) To secure the fulfilment of any contracts or engagement entered into by the Company by mortgage upon all of the property of the Company and its uncalled capital for the time being or by granting calls on shares or in manner as they may think fit.

    (e) To appoint at their discretion, remove or suspend such Manager, Secretaries,Officers, Clerks, Agents and Servants for permanent or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(f) To appoint a Director representing Myanmar Economic Corporation as General Manager by the Board of Directors, and Secretary or Departmental Managers to be appointed by the Company.

(g) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in with it is interested or for any other purposes and to execute and do all such deeds and thinks as may be requisite in relation to any such trust.

(h) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claim and demands by or against the Company.

(i) to refer claims and demands by or against the Company to arbitration and to observe and perform the awards.

(j) To make and give receipts, releases and discharges for money payable to the company and for the claims and demands of the company.

(k) To act on behalf the Company all matters relating to bankruptcy and insolvency.

(l) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for all on behalf of the Company.

(m) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(n) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(o) To give any officer or other person employed by the Company a commission on the profits of any particular business of transactions or a share in the general profit of the Company and such commission share of profit shall be treated as part of the working expenses of the Company.

(p) From time to time, to make, vary and repeal bye-laws, for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(q) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as

they may consider expedient for or in relation to any of the matter aforesaid or otherwise for the purpose of the Company.

(r) To borrow money for the benefit of the Company's business from any person, firm or Company or bank or financial organisation of local and abroad in the manner that the Directors shall think fit.

**GENERAL MEETINGS**

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter once at least in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting) and places as may be fixed by the Board of Directors. The quorum for all general meetings of the Company shall be any two (2) members, present (in person or by proxy, representative or attorney) throughout the meeting. If a quorum is not present within thirty (30) minutes of the time appointed for the holding of a general meeting, the general meeting shall stand adjourned to the same day in the next week at the same time and place, or to such other day and at such other time and place as the Directors may determine and to quorum at any adjourned general meeting shall be any two (2) members present (in person or by proxy, representative or attorney). Notice of any adjourned general meeting shall be given to the members and no business shall be transacted at any adjourned general meeting other than the business which might have been transacted at the general meeting from which the adjourned took place.

**DIVIDENDS**

16. The Company in general meeting may declare a dividend to be paid,but no dividend shall exceed the amount recommended by the Directors. No dividends shall be paid other than out of profits of the year or any other undistributed profits.

**OFFICE STAFF**

17. The Company shall maintain an office establishment and appoint a General Manager in accordance with the procedures stipulated in Article 14 (f) of this Article of Association. Other qualified persons as office staffs under the Executive Management are to be appointed by the Company. The remunerations and allowances such as salaries, travelling allowances and other expenditure incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Board of Directors.

**ACCOUNTS**

18. The Directors shall cause to be kept proper books of account with respect to:-

    (a) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:

    (b) all sales and purchase f goods by the Company:

    (c) all assets and liabilities of the Company.

19. The books of account shall be kept at the registered office of the Company or at such other place at the Directors shall think fit and shall be opened to inspection by the Directors during office hours.

**AUDITORS**

20. Appointment of Auditors and assignment of their powers and duties shall be regulated in acordance with the provisions of the Myanmar Companies Act, Section 145A or any statutory modifications their of for the time being in force.

**NOTICE**

21. A notice may be given by the Company to personally or sending it by post in a prepaid letter addressed to his registered address.

**THE SEAL**

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least,who shall sign every instrument to which the Seal in affixed.

**INDEMNITY**

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Directors, Auditor, Secretary of other officers of the Company shall be entitled to be indemnified by the Company against all cost, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

**WINDING UP**

24. Subject to the provisions contained in the Myanmar Companies Act and statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

25. We, the following persons, whose names, nationality, addresses, and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and the share investment of the company is invested by Myanmar Economic Corporation then we sign on behalf of Myanmar Economic Corporation as Board of Directors who shall direct the matters of Finance, Production, Sales & Distribution of the company.

| Sr. No. | Name, Address, and Description of the Directors | Nationality & N.R.C No. | Numbers of Shares | Signature |
|---|---|---|---|---|
| | **Myanmar Economic Corporation Represented by :** | Incorporated in Myanmar | 1,000,000 | |
| 1. | Brigadier General Thura Myint Thein (Retd) No.(72), Myet Khin Yeik Tha Street, 6½ Mile, Hlaing Tsp, Yangon. (Chairman) | Bamar 9/Ma Hta La (Naing)009936 | | |
| 2. | Colonel Tun Hla Aung Room(A),Bldg. (10), Nu Warr Yeik Tha , Naypyidaw (Director) | Bamar 9/Ma Na Ma (Naing)096512 | | |
| 3. | Major Hla Min Tu (Retd) Bldg No.(48),R (1), Myawaddy Yeik Tha, Mingalartaungnyut Tsp, Yangon. (Director) | Bamar 5/Ka Tha Na (Naing) 001251 | | |

It is hereby certified that the persons mentioned above put their signatures in my presence.

Place : Yangon.

Date : The day of 2009

U BA YU
Certified Public Accountant
No.14, Aungthiri Street(1),
Block No.28,Dagonmyothit(North)Township,
Yangon. Ph-581388

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့်ကြော်ငြာစာအမှတ်၊ ၅ /၂၀၀၉ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၀ ပြည့်နှစ်၊ တပေါင်းလပြည့်ကျော် ၁၅ ရက်

(၂၀၀၉ ခုနှစ်၊ မတ်လ ၂၅ ရက်)

၁။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.) အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ်မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအဖြစ် ပြောင်းလဲဆောင်ရွက်ရန် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်အား ပြန်လည် အပ်နှံခွင့်ကို (၁၇-၉-၂၀၀၈)နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏(၃၁/၂၀၀၈)အစည်းအဝေးမှသဘောတူခွင့်ပြုခဲ့ပါသည်။

၂။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.) တွင် နိုင်ငံခြားသားပါဝင်မှု မရှိတော့ဘဲ မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ (၈၅%)၊ မြန်မာနိုင်ငံသားပိုင် မြန်မာဂိုးလ်ဒင်းစတား ကုမ္ပဏီလီမိတက်မှ (၁၅%) အစုရှယ်ယာပိုင်ဆိုင်သော မြန်မာနိုင်ငံသားပိုင် ဖက်စပ်ကုမ္ပဏီအနေဖြင့် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ အမှတ်(၄)လမ်းမကြီး၊ အမှတ်-၅၅၅(ခ) ရှိ တပ်ပိုင်မြေ(၂၅)ဧကတွင် ဘီယာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်လျက်ရှိသည့်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် အဆိုပြုလွှာ Economic Projection အား (၁၃-၃-၂၀၀၉)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၉/၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ရာ သဘောတူကြပါသည်။

၃။ အဆိုပါ သဘောတူညီချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၄)၊ ပုဒ်မ-၆၊ အပိုဒ်ခွဲ(ဂ)နှင့် အခန်း(၅)၊ ပုဒ်မ-၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.)အား မူလလုပ်ငန်းဖက်စပ်စာချုပ်မှ ကျန်သောသက်တမ်းအတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအဖြစ် ဘီယာထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် ခွင့်ပြုမိန့်အမှတ်၊ မနသ-၇၀၀/၂၀၀၉ ကို ထုတ်ပေးလိုက်သည်။

၄။ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး (၃၁/၂၀၀၈)(၁၇-၉-၂၀၀၈)မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ် ပြောင်းလဲဆောင်ရွက်ရန် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်အားပြန်လည်အပ်နှံခွင့်ပြုသည့်(၁၇-၉-၂၀၀၈)နေ့ကို ဒဂုံဗျူရီကုမ္ပဏီလီမိတက်(Dagon Brewery Co., Ltd.)မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဘီယာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့အဖြစ် သတ်မှတ်လိုက်သည်။

၅။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.) သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ (FIL) အရ ဘီယာထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခြင်း (မှ) မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှု ဥပဒေ ( MCIL ) အရ ရာနှုန်းပြည့် မြန်မာနိုင်ငံသားပိုင် ဖက်စပ်

ကုမ္ပဏီ အဖြစ် လွှဲပြောင်း၍ လုပ်ငန်း ဆက်လက် ဆောင်ရွက်ခြင်း ဖြစ်ပါသည်။ ထို့ကြောင့် ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.)သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ (FIL) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီးဖြစ်ပါသည်။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ(၁၃)အရ လုပ်ငန်းနှင့်စပ်လျဉ်း၍ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင်သို့လျှောက်ထားနိုင်သည်။

၆။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက်အဖြစ်ထားရှိ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၇။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို စနစ်တကျပြုစုထားရှိရမည်။

၈။ မြန်မာနိုင်ငံသားပိုင် ဖက်စပ်ကုမ္ပဏီဖြစ်သော ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co.,Ltd.)တွင် ကျန်ရှိသောအဖွဲ့အစည်း(၂)ခုဖြစ်သည့် မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းနှင့် မြန်မာဂိုးလ်ဒင်းစတား ကုမ္ပဏီလီမိတက် တို့၏ ဖက်စပ်စာချုပ် သက်တမ်းသည် ပြင်ဆင်ထားသော ဖက်စပ်စာချုပ်(Amedment to the Joint Venture Agreement) ပါ လက်ကျန်သက်တမ်း ကာလနှင့်အညီ ဖြစ်စေရမည်။ နောက်ထပ်(၅)နှစ် (၃)ကြိမ် ဖက်စပ်စာချုပ် သက်တမ်းတိုးမြှင့်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခွင့်ပြုချက် ရယူရမည်။

၉။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.) ကို မြန်မာနိုင်ငံသားများပိုင်ဖက်စပ် ကုမ္ပဏီအဖြစ် လွှဲပြောင်းပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း(၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်(Certificate of Incorporation)

(ခ) ကုမ္ပဏီများညွှန်ကြားမှုဌာနက အတည်ပြုပြီးဖြစ်သည့်ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ (Memorandum and Articles of Association)

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေ အသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၁၁။ အဆိုပြုလုပ်ငန်းအတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ ဒဂုံဗျူရီ ကုမ္ပဏီ လီမိတက် (Dagon Brewery Co., Ltd.) သည် ဤခွင့်ပြုမိန့်အရထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက် ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး

အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၁၃။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.) သည် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့်(၆)လ တစ်ကြိမ် (ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ ဒဂုံဗျူရီကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၂၄/၂၀၀၉( ၃၅၄၉ )၊
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ မတ် လ ၂၅ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မြန်မာ စီးပွားရေး ကော်ပိုရေးရှင်း၊ ကာကွယ်ရေးဝန်ကြီးဌာန။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၁။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၃။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌနိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စားသောက်ကုန် လုပ်ငန်း။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၂၇။ ဥက္ကဋ္ဌ၊ ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် (Dagon Brewery Co., Ltd.)
၂၈။ ဒါရိုက်တာ၊မြန်မာ ဂိုးလ်ဒင်းစတား ကုမ္ပဏီလီမိတက် (Myanmar Golden Star Co., Ltd)။

ဒဂုံဗျူရီ ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဘီယာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်း

၁။ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ အမှတ်(၄)လမ်းမကြီးရှိ တပ်ပိုင်မြေ(၂၅)ဧကတွင်ဆောင်ရွက်လျက်ရှိသော ဘီယာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်း (FIL) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုလုပ်ငန်း (MCIL) သို့ ပြောင်းလဲဆောင်ရွက်ရန် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၃၁/ ၂၀၀၈) (၁၇-၉-၂၀၀၈) မှ ခွင့်ပြုခဲ့ပါသည်။ (ပူးတွဲ - ၁)

၂။ အထက်ပါ သဘောတူ ခွင့်ပြုချက် အရ ကော်မရှင် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၇၀၀/ ၂၀၀၉ (၂၅-၃-၂၀၀၉) ကို ထုတ်ပေးခဲ့ပါသည်။ (ပူးတွဲ - ၂)

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ် မြန်မာ့စီးပွားရေးကော်ပိုရေးရှင်းမှ (၈၅%)၊ မြန်မာနိုင်ငံသားပိုင် မြန်မာဂိုးလ်ဒင်းစတား ကုမ္ပဏီလီမိတက်မှ (၁၅%) ဖက်စပ် ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ လုပ်ငန်းဆောင်ရွက်ရန် အတွက် တစ်နှစ်လျှင် Chemical များ အပါအဝင် အဓိကကုန်ကြမ်း တန်ဘိုး ကျပ် (၃၁၀၁.၃၀) သန်း၊ (ပူးတွဲ - ၃)နှင့် အထောက်အကူ ကုန်ကြမ်းတန်ဘိုး ကျပ် (၂၅၅၀.၂၄) သန်း၊ (ပူးတွဲ - ၄) လိုအပ်ပါကြောင်း အဆိုပြုလွှာတွင် တင်ပြထားပါသည်။

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**
**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၀၈ခုနှစ်၊ စက်တင်ဘာလ(၁၇)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၃၁/၂၀၀၈) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-ခ | ၄၇၇ | ဒဂုံဗျူရိုကုမ္ပဏီလီမိတက်အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အရပြောင်းလဲဆောင်ရွက်ရန်အတွက် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်အားပြန်လည်အပ်နှံခွင့်ပြုကြောင်းဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။<br>မြန်မာစီးပွားရေးကော်ပိုရေးရှင်း။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
စာအမှတ်
ရက်စွဲ ၁၂-၉-၂၀၀၈
ကုန်သွယ်မှုမူဝါဒကောင်စီ

wwm /sk 23-9-2008

<u>ကော်မရှင်၏ ၉ / ၂၀၀၉ အစည်းအဝေး</u>

အကြောင်းအရာ။ ။ ဒဂုံဗျူရီ ကုမ္ပဏီလီမိတက်အား ဘီယာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ပြောင်းလဲ ဆောင်ရွက်ရန် အတွက်ကော်မရှင် ခွင့်ပြုမိန့်ချမှတ်ပေး ပါရန် မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းမှ အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။

၁။ မြန်မာနိုင်ငံမှ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်း (MEC) မှ ၅၀%၊ မြန်မာဂိုးလ်ဒင်း စတား ကုမ္ပဏီ(MGS) မှ ၁၅%၊ ပြည်ပကုမ္ပဏီဖြစ်သည့် Brewinvest (Bermuda) Ltd. မှ ၃၅% ဖြင့် ဖက်စပ်ပြု၍ Dagon Brewery Co., Ltd. (ဒဂုံဗျူရီကုမ္ပဏီ လီမိတက်) တည်ထောင်ကာ ဘီယာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ခွင့်ပြုမိန့်အမှတ် (၂၅၈/၉၇) (၁၉-၅-၉၇)ကို ထုတ်ပေးခဲ့ ပါသည်။

၂။ ဒဂုံဗျူရီ ကုမ္ပဏီ လီမိတက်တွင် ထည့်ဝင်ထားသော နိုင်ငံခြား အစုရှယ်ယာ (၃၅%) ကို မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းမှဝယ်ယူခဲ့ရာ နိုင်ငံခြားသား ပါဝင်မှု မရှိတော့ဘဲ မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းမှ (၈၅%)၊ မြန်မာနိုင်ငံသားပိုင် မြန်မာ့ဂိုးလ်ဒင်းစတား ကုမ္ပဏီ လီမိတက်မှ (၁၅%) ၊ အစုရှယ်ယာ ပိုင်ဆိုင်မှုဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ခွင့်ပြုမိန့် ပြောင်းလဲ ချမှတ်ပေးပါရန် မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်းမှ တင်ပြလာ ခြင်း ဖြစ်ပါသည်။

၃။ ဒဂုံဗျူရီ ကုမ္ပဏီ လီမိတက်အား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအဖြစ်မှ မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအဖြစ် ပြောင်းလဲဆောင်ရွက်လိုပါ၍ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်အားပြန်လည်အပ်နှံခွင့်ကို ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၃၀/၂၀၀၈) (၁၇-၉-၂၀၀၈) အစည်းအဝေးမှ ခွင့်ပြုခဲ့ပါသည်။

၄။ ကုမ္ပဏီမှနိုင်ငံခြားသားအစုရှယ်ယာရှင်နှုတ်ထွက်သွားပြီးဖြစ်သဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ရယူနိုင်ရန်အတွက် ယခင်ချုပ်ဆိုထားသော ဖက်စပ်စာချုပ် အား ပြင်ဆင်ချုပ်ဆိုခြင်း၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (MOA & AOA) တို့ အား ပြင်ဆင်ရေးသားခြင်းတို့အပေါ် ရှေ့နေချုပ်ရုံး၏ သဘောထား ပြန်ကြားချက် ရရှိပြီး ဖြစ်ပါသည်။ ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်ထားသည့် ဖက်စပ်စာချုပ် နှင့် MOA & AOA တို့ကို လက်မှတ်ရေးထိုးခဲ့ပြီး ဖြစ်ပါသည်။

၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ မူလလုပ်ငန်း လုပ်ကိုင်ခွင့်ကာလမှာ နှစ်(၃၀) ဖြစ်ပါသည်။ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် နောက်ထပ် (၁၉)နှစ် ကျန်ရှိပါကြောင်း၊ MEC နှင့် MGS တို့၏ ပြင်ဆင်ဖြည့်စွက်ထား သည့် ဖက်စပ်စာချုပ်၏ သက်တမ်းသည် (၁၉)နှစ် ဖြစ်ကြောင်း၊ ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် အား မူလခွင့်ပြုမိန့်၏ လက်ကျန် သက်တမ်း ကာလ (၁၉) နှစ် အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ထုတ်ပေးပါရန် တင်ပြထားပါသည်။

၆။ ဒဂုံဗျူရီကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ အမှတ်(၄) လမ်းမကြီး၊ အမှတ် ၅၅၅(ခ) ရှိတပ်ပိုင်မြေ (၂၅) ဧက တွင် လုပ်ငန်း ဆောင်ရွက်လျှက်ရှိပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်မည့် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်းပေါင်း (၆၂၆၀.၇၈) သန်းဖြစ်ပါသည်။

၇။ စိစစ်တင်ပြချက်

(က) မြန်မာ့စီးပွားရေး ကော်ပိုရေးရှင်း၊ မြန်မာဂိုးလ်ဒင်းစတား ကုမ္ပဏီလီမိတက်နှင့် Brewinvest တို့ ပူးပေါင်း၍ ဖက်စပ်ကော်ပိုရေးရှင်း “ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် ” တည်ထောင်ကာ Carlsberg Beer ထုတ်လုပ်ဖြန့်ဖြူး ရောင်းချနိုင်ရေးအတွက် ကော်မရှင်၏ (၁/ ၉၆) (၁၂-၁-၁၉၉၆) အစည်းအဝေးနှင့် အစိုးရအဖွဲ့၏ (၆/ ၉၆) (၁၄-၂-၁၉၉၆) အစည်းအဝေးတို့မှ နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေ (FIL) အရ သဘောတူခွင့်ပြုခဲ့ပါသည်။ စာချုပ်သက်တမ်းမှာ နှစ် (၃၀) ဖြစ်ပါသည်။

(ခ) ယခုအခါ Brewinvest ၏ ရှယ်ယာ (၃၅%) ကို MEC မှ ဝယ်ယူပြီး ဖြစ်ပါ သည်။ ထို့ကြောင့် MEC (၈၅%) နှင့် MGS (၁၅%) ပိုင်ဆိုင်သော မြန်မာနိုင်ငံ သားပိုင် JV ဖြစ်ပါသည်။

(ဂ) ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၃၁/ ၂၀၀၈) (၁၇-၉-၂၀၀၈) အစည်းအဝေးမှ ဒဂုံဗျူရီ ကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ (MCIL) အရ ပြောင်းလဲဆောင်ရွက်ရန် အတွက် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ (FIL) ခွင့်ပြုမိန့် ပြန်လည်အပ်နှံခွင့် ပြုခဲ့ပါသည်။ FIL ခွင့်ပြုမိန့် ပြန်လည် အပ်နှံပြီး၍ MCIL ခွင့်ပြုမိန့်အတွက် အဆိုပြုလွှာတင်ပြ လာခြင်း ဖြစ်ပါသည်။

(ဃ) Yangon Airways Ltd. မှ FIL ခွင့်ပြုမိန့် ပြန်လည်အပ်နှံ၍ MCIL အရ ခွင့်ပြုမိန့် လျှောက်ထားခြင်း ကိစ္စကို ကော်မရှင် အစည်းအဝေးသို့တင်ပြ၍ MCIL ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် သာဓက ရှိပါသည်။

(င) Yangon Airways Ltd. သည် နိုင်ငံခြားသား မပါဝင်တော့ဘဲ မြန်မာနိုင်ငံသားပိုင် အနေဖြင့် MCIL အရ ပုဂ္ဂလိကပိုင် လေကြောင်းပျံသန်းရေး လုပ်ငန်း ဆောင်ရွက်ရန်ခွင့်ပြုမိန့်လျှောက်ထားခြင်းကိစ္စတွင် ကုန်သွယ်မှုမူဝါဒကောင်စီ နှင့် အစိုးရအဖွဲ့ အစည်းအဝေး များသို့ ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြ၍ မူပိုင်းဆိုင်ရာ သဘောတူညီမှု ဆုံးဖြတ်ချက်များ ရယူခဲ့ပါသည်။ ဆက်လက်၍ နိုင်ငံသားများပိုင် လုပ်ငန်းအဆိုပြုလွှာ တင်ပြခဲ့ရာ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ ကော်မရှင်၏ လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ကော်မရှင် အစည်းအဝေးတွင် တင်ပြပြီး MCIL အရ ခွင့်ပြုမိန့် ထုတ်ပေးခဲ့ခြင်း ဖြစ်ပါ သည်။

(စ) ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် အား MCIL အရ ပြောင်းလဲ ဆောင်ရွက်ရန် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေး (၃၁/ ၂၀၀၈) (၁၇-၉-၂၀၀၈) မှ သဘောတူညီမှု ရရှိခဲ့ပြီး ဖြစ်ပါသည်။ လုပ်ငန်းတွင် နိုင်ငံခြားသား မပါဝင် တော့ဘဲ နိုင်ငံသားများ ဖြင့် ဆောင်ရွက်လျှက်ရှိခြင်းကြောင့် အောက်ပါမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၄)၊ ပုဒ်မ- ၆၊ အပိုဒ်ခွဲ (ဂ) နှင့် အခန်း (၅)၊ ပုဒ်မ- ၁၀ တို့အရ ကော်မရှင်၏လုပ်ပိုင်ခွင့်များကိုကျင့်သုံးလျှက် ကော်မရှင်အစည်းအဝေးတွင်တင်ပြ ပြီး နိုင်ငံသား ခွင့်ပြုမိန့် ထုတ်ပေး ရန် စဉ်းစားပေးနိုင်ပါသည်။

<u>MCIL အခန်း (၄)၊ ပုဒ်မ- ၆၊ အပိုဒ်ခွဲ (ဂ)</u>

- ကော်မရှင်၏ တာဝန်နှင့် လုပ်ပိုင်ခွင့်အရ အဆိုပြုချက်ကို လက်ခံလျှင် ခွင့်ပြုမိန့် ကို ရင်းနှီးမြှုပ်နှံသူအား ထုတ်ပေးခြင်း။

<u>MCIL အခန်း (၅)၊ ပုဒ်မ- ၁၀</u>

- ကော်မရှင်သည်အဆိုပြုချက်ကိုလက်ခံလျှင် ရင်းနှီးမြှုပ်နှံလိုသူအားသတ်မှတ်ချက် နှင့်အညီ ခွင့်ပြုမိန့်ကို ထုတ်ပေးရမည်။

(ဆ) MCIL အရ ပြောင်းလဲဆောင်ရွက်မည့်လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်းပေါင်း ( ၆၂၆၀.၇၈ ) သန်း ဖြစ်ပါသည်။ ပြောင်းလဲ ဖွဲ့စည်းမည့် နိုင်ငံသား ကုမ္ပဏီ ၏ Authorized Capital ( ခွင့်ပြု မတည်ငွေရင်း ) US$ (၁၅.၉၆) သန်း ကို တရားဝင်ငွေလဲလှယ်နှုန်းဖြင့် တန်ဖိုးသင့်ထားပါသည်။

၈။ သို့ဖြစ်ပါ၍ ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် အား ဘီယာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ပြောင်းလဲ ဆောင်ရွက်ရန် အတွက် ကော်မရှင် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် စီးပွားရေးဆိုင်ရာ အဓိက အချက်များကို ပူးတွဲ တင်ပြလျှက် လမ်းညွှန်မှုခံယူအပ်ပါသည်။



Dagon Be

ပူးတွဲ

## ဒဂုံဘီယာစက်ရုံ စီမံကိန်း၏ စီးပွားရေးဆိုင်ရာ အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဒဂုံဗျူရီ ကုမ္ပဏီလီမိတက် (အများနှင့်မသက်ဆိုင်သည့် ဖက်စပ်ကုမ္ပဏီ) |
| ၂။ | ကုမ္ပဏီ၏ မတည်ရင်းနှီးမည့် ရှယ်ယာအချိုးအစား ထည့်ဝင်မှု | - မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း ၈၅%<br>- မြန်မာဂိုးလ်ဒင်းစတား ကုမ္ပဏီလီမိတက် ၁၅% |
| ၃။ | လုပ်ငန်းအဆိုပြုသူအမည် | - ဗိုလ်ချုပ်ကျော်ဝင်း (ငြိမ်း) |
| ၄။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - ဘီယာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၅။ | | (ကျပ်သန်း) |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၆၂၆၀.၇၈ |
| | - ငွေပမာဏ | ၃၄၉၁.၇၂ |
| | - စက်ပစ္စည်းကိရိယာများ | ၁၂၄၃.၃၃ |
| | - မြေ | ၁၂.၂၀ |
| | - အဆောက်အဦ | ၁၂၀.၇၇ |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၆၂၂.၈၁ |
| | - ကုန်ကြမ်းပစ္စည်းများ | ၇၆၉.၉၄ |
| | | - ကုမ္ပဏီ၏ မတည်ငွေရင်းမှာ ကျပ် (၉၅.၇၆) သန်း ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုမှာ ကျပ် (၆၂၆၀.၇၈)သန်း ဖြစ်၍ ခွင့်ပြု မတည်ငွေရင်း တိုးမြှင့်ခြင်း ကို ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန ၏ လုပ်ထုံးလုပ်နည်းနှင့် အညီ ဆက်လက် ဆောင်ရွက်ရန် လိုအပ်ပါသည်။ |
| ၆။ | နှစ်စဉ်ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | |
| | ပုလင်းဘီယာ (640 ml) | ကာတွန်း / တစ်ကာတွန်း ရောင်းဈေးနှုန်း (ကျပ်) |
| | - Dagon Lager | ၇၁၆၁၀၀ / ၈၄၀၀ |
| | - Dagon Extra Strong | ၂၀၈၃၂၁၀ / ၉၀၀၀ |
| | - SKOL | ၄၅၅၆၇ / ၉၂၄၀ |
| | - SKOL (Super) | ၂၀၈၃၂၁၀ / ၉၄၈၀ |

follow (db)

| | | | |
|---|---|---|---|
| | သံဗူးဘီယာ (330 ml) | ကာတွန်း | တစ်ကာတွန်း ရောင်းဈေးနှုန်း (ကျပ်) |
| | - Dagon Lager | ၃၇၈၈၇ | ၁၂၄၈၀ |
| | - Dagon Extra Strong | ၃၁၅၇၉ | ၁၃၅၆၀ |
| | စည်ဘီယာ | စည် | တစ်စည် ရောင်းဈေးနှုန်း (ကျပ်) |
| | - Dagon Lager (20 Lit) | ၂၆၂၅၀၀ | ၁၈၆၆၀ |
| | - SKOL (Super) (20 Lit) | ၇၅၀၀ | ၂၂၂၆၀ |
| ၇။ | ဝင်ငွေ | ကျပ် ၁၆၂၉၆.၄၆ သန်း | |
| ၈။ | အသားတင်အမြတ် | ကျပ် ၁၂၂၄.၇၆ သန်း | |
| ၉။ | နိုင်ငံတော်မှ နှစ်စဉ်ရရှိမည့် အကျိုးအမြတ် | | |
| | - ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၅၄၂၃.၄၃ သန်း | |
| | - ဝင်ငွေခွန် | ကျပ် ၅၂၄.၉၀ သန်း | |
| ၁၀။ | လုပ်သားအင်အား | ၂၈၁ ဦး | |
| | - ပြည်တွင်း | ၂၈၀ ဦး | |
| | - ပြည်ပ | ၁ ဦး (Brew master ကို နှစ်စဉ် စာချုပ်ဖြင့် ခန့်ထားလျှက်ရှိပါသည်။) | |

follow (db)